(က) သက်ဆိုင်ရာအာဏာပိုင်များထံမှ လိုအပ်သော ခွင့်ပြုချက်များရယူပေးရမည်။

(ခ) "အငှားချထားခြင်းခံရသူ" က လိုအပ်သော ခွင့်ပြုချက်များ၊ မှတ်ပုံတင်များ၊ လိုင်စင်များ၊ အခြားလိုအပ်သော အချက်အလက်များကို သက်ဆိုင်ရာ ပြည်ထောင်စုမြန်မာ နိုင်ငံတော်၏ အဖွဲ့အစည်းများထံမှ ရယူရာတွင် ကူညီ ဆောင်ရွက်ပေးရမည်။

(ဂ) "အငှားချထားခြင်းခံရသူ" က ငှားရမ်းသည့်ကာလအတွင်း လုပ်ပိုင်ခွင့်ရရှိ ထားသော မြေဧက (၁၀၀၀) ကို စည်းကမ်းချက်များနှင့်အညီ လက်ဝယ်ထား၍ ဆောင်ရွက်ခွင့် ရှိစေရန်အတွက် "အငှားချထားသူ" ကသော်လည်းကောင်း၊ ယင်း၏ ကိုယ်စားပြုသူက သော်လည်းကောင်း၊ ဝင်ရောက်စွက်ဖက်ခြင်း၊ နှောက်ယှက်ခြင်းများမပြုရန် တာဝန်ယူ ရမည်။

(ဃ) "အငှားချထားခြင်းခံရသူ" က မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ထံသို့ စီမံကိန်း ဆိုင်ရာ လုပ်ငန်းများအတွက် အခွန်အခကင်းလွတ်ခွင့်၊ သက်သာခွင့်နှင့် အခြားအထူး ခံစားခွင့်များ လျှောက်ထားရာတွင် ကူညီဆောင်ရွက်ပေးရမည်။

(င) "အငှားချထားခြင်းခံရသူ" က စီမံကိန်းလုပ်ငန်းများ ဆောင်ရွက်ရာတွင် လိုအပ် သော ကုန်ကြမ်းများ၊ စက်ယန္တရားများ၊ မျိုးစေ့များ၊ လုပ်ငန်းသုံး ပစ္စည်းများကို ပြည်တွင်း ပြည်ပမှ တင်သွင်းရာတွင် အကောက်ခွန်ရှင်းလင်းမှုနှင့် သယ်ယူ ပို့ဆောင်ရေး၌ လိုအပ်သလို ကူညီဆောင်ရွက်ပေးရမည်။

**၆။ အငှားချထားခြင်းခံရသူ၏ လိုက်နာရမည့်စည်းကမ်းချက်များနှင့် အခွင့်အရေးများ**

(၁) လုပ်ကိုင်ခွင့်ပြုထားသည့် မြေပေါ်တွင် သတ်မှတ်ထားသည့် နှစ်ကာလအတွင်း ဧရိယာ အားလုံး သို့မဟုတ် အငှားချထားသူက ကင်းလွတ်ခွင့်ပြုသည့် ဧရိယာမှအပ ကျန်မြေဧရိယာ အားလုံး အပြည့်အဝ စိုက်ပျိုးပြီး ဖြစ်ရမည်။

(၂) လုပ်ကိုင်ခွင့်ပြုထားသည့် မြေပေါ်တွင် ကျွန်းစိုက်ခင်းကို အနှောက်အယှက်မပြုသည့် တောင်ယာသီးနှံ/ သီးနှံသစ်တော ရောနှောစိုက်ပျိုးခြင်း (Agro forestry) လုပ်ငန်းမှအပ အခြား လုပ်ငန်းကို ခွင့်ပြုချက်မရှိပဲ လုပ်ကိုင်ခြင်းမပြုရ။

(၃) လုပ်ငန်းလုပ်ကိုင်ခွင့်အတွက် နှစ်စဉ်စိုက်ပျိုးမည့် စီမံချက်ပါ ဧကအလိုက် အာမခံကြေးငွေ တစ်ဧကလျှင် ၁၀၀၀ိ/- (ကျပ်တစ်ထောင်တိတိ) ကို လုပ်ငန်းစတင် ဆောင်ရွက်မည့် နေ့ရက် မတိုင်မီ အငှားချထားသူမှ သတ်မှတ်ထားသည့် ဘဏ်တွင် ပေးသွင်း ရမည်။ ထိုအာမခံကြေးငွေကို ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ကျွန်းစိုက်ခင်း စီမံချက်ပါ အတိုင်း အပြည့်အဝစိုက်ပျိုးပြီး တစ်နှစ်ပြည့်၍ သတ်မှတ်ချက်များအတိုင်း စိုက်ခင်း အောင်မြင်ပါက ပြန်လည်ထုတ်ယူခွင့်ရှိသည်။

(၄) လုပ်ကိုင်ခွင့်ပြုထားသည့် မြေပေါ်တွင် လုပ်ကိုင်မည့် လုပ်ငန်းအစီအစဉ်များကို ကြိုတင် ရေးဆွဲပြီး အငှားချထားသူက အတည်ပြုထားသည့် စီမံချက်ပါအတိုင်း သတ်မှတ်ထားသော အချိန်ကာလများနှင့် အညီ ပြီးစီးအောင် ဆောင်ရွက်ရမည်။ လုပ်ငန်းအစီအစဉ်အတိုင်း ခိုင်လုံ သော အကြောင်းမရှိဘဲ ဆောင်ရွက်နိုင်ခြင်းမရှိဟု ယူဆရန် အထောက်အထားများ ခိုင်လုံပါက အစိုးရ အဖွဲ့၏ ခွင့်ပြုချက်ဖြင့် လုပ်ကိုင်ခွင့်ကို ပြန်လည်ရုပ်သိမ်းခြင်းခံရမည့်အပြင် သစ်တော ပျက်စီး ဆုံးရှုံးမှုအတွက် ထိုက်သင့်သော လျော်ကြေးငွေကို ပေးဆောင်ရမည်။ ထို့အပြင် ပေးသွင်းထားသည့် အာမခံကြေးငွေကိုလည်း သိမ်းဆည်းခြင်းခံရမည်။

(၅) လုပ်ကိုင်ခွင့်ပြုထားသည့် မြေဧရိယာအတွင်း ပေါက်ရောက်နေသည့် ကျွန်းနှင့် တားမြစ်သစ်ပင်များကို သစ်တောဦးစီးဌာန၏ ခွင့်ပြုချက်မရရှိဘဲ ခုတ်လှဲခြင်း၊ ပိုင်းဖြတ်ခြင်း၊ သင်းသတ် ခြင်း၊ ထစ်မှတ်ခြင်း၊ ချိုးဖျက်ခြင်း၊ ဖောက်ထွင်းခြင်း၊ မီးသို့မဟုတ် အခြားနည်းဖြင့် ပျက်စီးစေခြင်း၊ ထုတ်ယူခြင်း၊ သယ်ယူရွှေ့ပြောင်းခြင်းနှင့် လက်ဝယ်ထားခြင်းမပြုရ။

(၆) လုပ်ကိုင်ခွင့်ပြုထားသည့် မြေဧရိယာအတွင်း မြေပေါ်မြေအောက် သယံဇာတပစ္စည်းများကို တည်ဆဲဥပဒေတစ်ရပ်ရပ်အရ သီးခြားခွင့်ပြုချက်မရှိဘဲ ရှာဖွေခြင်း၊ တူးဖော်ခြင်း၊ ထုတ်ယူခြင်းမပြုရ။

(၇) လုပ်ကိုင်ခွင့်ရရှိသည့် သက်တမ်းအတွင်း လုပ်ကိုင်ခွင့်ရရှိသူ ကွယ်လွန်လျှင် ၎င်း၏ အမွေ ဆက်ခံခွင့်ရရှိသူက ခိုင်လုံသောအထောက်အထားများ တင်ပြ၍ သစ်တောရေးရာဝန်ကြီးဌာန၏ ခွင့်ပြုချက်ဖြင့် ဆက်လက်လုပ်ကိုင်ခွင့်ရှိသည်။

(၈) လုပ်ကိုင်ခွင့်ပြုထားသည့် မြေအားလုံးကိုသော်လည်းကောင်း၊ တစ်စိတ်တစ်ဒေသကိုသော် လည်းကောင်း၊ သစ်တောရေးရာဝန်ကြီးဌာန၏ ခွင့်ပြုချက်မရရှိဘဲ ပေါင်နှံခြင်း၊ ရောင်းချခြင်း သို့မဟုတ် အခြားတစ်နည်းနည်းဖြင့် လွှဲပြောင်းခြင်းမပြုရ။

(၉) ကျွန်းစိုက်ခင်း တည်ထောင်ရာတွင် မျိုးကောင်းမျိုးသန့်အပင်များမှ ခန္ဓာပိုင်းမျိုးပွားနည်း (Vegetative Propagation) ဖြင့် ထုတ်လုပ်ထားသည့် ပျိုးပင်များကို အတတ်နိုင်ဆုံး အသုံးပြု ရမည့်အပြင် ရေရှည်တွင် ကျွန်းမျိုးသန့်ဥယျာဉ် (Seed Orchard) တည်ထောင်ရမည်။ ထို့အပြင် မျိုးကောင်းမျိုးသန့် ထုတ်လုပ်ရေးအတွက် သုတေသနနှင့် ဖွံ့ဖြိုးရေးလုပ်ငန်းများ (Research and Development) ကို ဆောင်ရွက်ရမည်။

(၁၀) ကျွန်းစိုက်ခင်းတည်ထောင်ရာတွင် သဘာဝဝန်းကျင် ယိုယွင်းပျက်စီးခြင်း မရှိစေရေးအတွက် သစ်တောဦးစီးဌာန၏ သစ်တောစိုက်ခင်းတည်ထောင်ခြင်းနှင့် ပြုစုထိန်းသိမ်းခြင်းဆိုင်ရာ နည်းစနစ်များနှင့် စည်းကမ်းချက်များကို လိုက်နာဆောင်ရွက်ရမည်။

(၁၁) အငှားချထားသူ၏ ခွင့်ပြုသတ်မှတ်ချက်နှင့်အညီ သစ်တောစိုက်ခင်းလုပ်သားများ စုစည်း နေထိုင်နိုင်ရေးနှင့် ၎င်းတို့၏ လူနေမှုဘဝ အဆင်ပြေစေရေးအတွက် သစ်တောရွာ တည်ထောင်ပေး ရမည်။

(၁၂) ကျွန်းစိုက်ခင်း မှတ်တမ်းစာအုပ်ထားရှိ၍ လုပ်ငန်းဆောင်ရွက်ချက်များကို အသေးစိတ် မှန်ကန်စွာ ဖြည့်စွက်ထားရှိရမည်။ အဌားချထားသူမှ တာဝန်ရှိသူများ အခါအားလျော်စွာ လာရောက် ကြည့်ရှုစစ်ဆေး၍ အကြံပြုချက်များ၊ မှတ်ချက်များ ရေးသားပါက ယင်းအကြံပြု ချက်များ၊ မှတ်ချက် များနှင့်အညီ ဆက်လက်ဆောင်ရွက်ရမည်။

(၁၃) မြေငှားရမ်းခအဖြစ် တစ်ဧကအတွက် တစ်နှစ်လျှင် ကျပ် ၅၀၀ိ/- (ကျပ် ငါးရာ တိတိ) နှုန်း ဖြင့် လုပ်ငန်းစတင်ရမည့် နေ့ရက်မတိုင်မီနှင့် နောက်နှစ်များတွင် ဆက်လက်လုပ်ကိုင်မည့် နှစ်အတွက် ပထမဆုံး နေ့ရက်မတိုင်မီ သစ်တောဦးစီးဌာနသို့ နှစ်စဉ် ပေးသွင်းရမည်။

(၁၄) ကျွန်းစိုက်ခင်းတွင် ပင်ကျပ်နုတ်ခြင်းနှင့် နောက်ဆုံးတောထွက် (Final Yield) ထုတ်လုပ် ခြင်း လုပ်ငန်းများကို သစ်တောဦးစီးဌာန၏ ခွင့်ပြုချက်ရယူပြီး ကျွန်းစိုက်ခင်း တည်ထောင် ခြင်းနှင့် ပြုစုထိန်းသိမ်းခြင်းဆိုင်ရာ နည်းစနစ်များနှင့်အညီ ဆောင်ရွက်ရမည်။

(၁၅) ကျွန်းစိုက်ခင်းမှ ပင်ကျပ်နုတ်ခြင်းနှင့် နောက်ဆုံးတောထွက် ထုတ်လုပ်ခြင်းလုပ်ငန်းများ ဆောင်ရွက်သည့်အခါ သစ်တောဦးစီးဌာနမှ သတ်မှတ်ထားသည့် တံဆိပ်အမှတ်အသားများ ရိုက်မှတ်ပြီးမှ ခုတ်လှဲခြင်းနှင့် ထုတ်ယူခြင်း ပြုရမည်။

(၁၆) ကျွန်းစိုက်ခင်းမှ ထုတ်လုပ်ထွက်ရှိသည့် ကျွန်းမျော၊ ကျွန်းတိုင်၊ ကျွန်းသစ်များကို စိုက်ခင်း ဧရိယာအတွင်း၌ သစ်တောဦးစီးဌာနက အကောက်တံဆိပ် ရိုက်မှတ်ပြီးသည့်အခါ သတ်မှတ် စည်းကြပ်သည့် အခွန်ငွေကို ပေးဆောင်ရမည်။

(၁၇) သတ်မှတ်စည်းကြပ်သည့် အခွန်ငွေ ပေးဆောင်ပြီးဖြစ်သော ကျွန်းမျော၊ ကျွန်းတိုင်၊ ကျွန်း သစ်များကို နိုင်ငံတော်က ချမှတ်ထားသည့် မူဝါဒများနှင့် သစ်တောဦးစီးဌာန၏ စည်းမျဉ်း စည်းကမ်း များနှင့် အညီ ပြည်တွင်း၊ ပြည်ပသို့ ရောင်းချနိုင်သည်။

(၁၈) ကျွန်းစိုက်ခင်းတွင် ပင်ကျပ်နုတ်ခြင်းမှ ကြားတောထွက် (Intermediate Yield) အဖြစ် ထုတ်လုပ်ထွက်ရှိသည့် ကျွန်းမျော၊ ကျွန်းတိုင်၊ ကျွန်းသစ်များကို လုပ်ငန်းရှင်မှ ရယူခံစားခွင့်ရှိပြီး နောက်ဆုံးတောထွက်အဖြစ် ထုတ်လုပ်ထွက်ရှိသည့် ကျွန်းသစ်များကို ပြည်တွင်းပြည်ပသို့ ရောင်းချ သည့်အခါ စုစုပေါင်းရရှိသည့် ထုတ်လုပ်မှုပမာဏ သို့မဟုတ် တန်ဖိုး၏ ၂၅ % ကို သစ်တောရေးရာ ဝန်ကြီးဌာန၏ သတ်မှတ်ချက်နှင့်အညီ ပေးအပ်ရမည်။

(၁၉) လုပ်ကိုင်ခွင့်ပြုသော မြေအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို နိုင်ငံတော်နှင့် အများ ပြည်သူအကျိုးအတွက် တည်ဆဲဥပဒေနှင့်အညီ ပြန်လည် သိမ်းယူသည့်အခါ ကျွန်းစိုက်ခင်း လုပ်ငန်း တည်ထောင်သည့် ရင်းနှီးမြှုပ်နှံငွေများနှင့် သင့်လျော်သည့် လျော်ကြေးငွေကို ရထိုက်ခွင့်ရှိသည်။ ထိုသို့ သိမ်းယူသည့်အခါ သစ်တောရေးရာဝန်ကြီးဌာနက ညွှန်ကြားသည့်အတိုင်း ပြန်လည် အပ်နှံ ရမည်။

(၂၀) လုပ်ကိုင်ခွင့်ရရှိသည့် မြေပေါ်တွင် ကျွန်းစိုက်ခင်းစိုက်ပျိုးပြီး (၈) နှစ် ပြည့်ပြီးသည့်အခါ သစ်တောရေးရာဝန်ကြီးဌာန၏ ခွင့်ပြုချက်ဖြင့် ရောင်းချခွင့် ရှိသည်။

(၂၁) အထက်ဖော်ပြပါ စည်းကမ်းချက်အပိုဒ်တစ်ခုခုကို ပြင်ဆင်လိုပါက သစ်တောရေးရာ ဝန်ကြီး ဌာန၏ ခွင့်ပြုချက်ဖြင့် ပြင်ဆင်ခွင့်ရှိသည်။

**၇။ စာချုပ်စတင်အကျိုးသက်ရောက်သောနေ့**

ဤစာချုပ်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်နှင့် အထက်အဖွဲ့အစည်းတို့၏ အတည် ပြုချက်ရရှိပြီးနောက် အသိသက်သေများရှေ့တွင် နှစ်ဦးနှစ်ဖက် လက်မှတ်ရေး ထိုးသော နေ့ရက်မှ စတင် အကျိုးသက်ရောက်မှု ရှိစေရမည်။

**၈။ စာချုပ်သက်တမ်းကာလ**

ငှားရမ်းလုပ်ကိုင်ခွင့်ပြုသည့် ကာလ (၃၅) နှစ်ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင် နှင့် အထက်အဖွဲ့အစည်းတို့၏ အတည်ပြုချက်ရရှိပြီးနောက် နှစ်ဦးနှစ်ဖက် လက်မှတ်ရေးထိုး သော နေ့ရက်မှ စတင်ရေတွက်သွား မည်ဖြစ်သည်။

**၉။ စာချုပ်သက်တမ်းကုန်ဆုံးခြင်း**

ဤစာချုပ်သက်တမ်းသည် ငှားရမ်းကာလပြည့်မြောက်သည့်နေ့ (သို့) စာချုပ်ပါ လုပ်ငန်းများ ကို "အငှားချထားခြင်းခံရသူ"နှင့် "အငှားချထားသူ" တို့ အပြည့်အဝ ပြီးဆုံးအောင် ဆောင်ရွက်ပြီး သည့်နေ့တွင် ကုန်ဆုံးသည်ဟုမှတ်ယူရမည်။ သို့သော် "အငှားချထားခြင်း ခံရသူ"၏ ပျက်ကွက်မှု ကြောင့် "အငှားချထားသူ" က စာချုပ်ပါ စည်းကမ်းချက်နှင့်အညီ ဆောင်ရွက်ရန် တရားဝင်စာဖြင့် အကြောင်းကြားသော်လည်း (၁) လအတွင်း စီမံကိန်း လုပ်ငန်းများကို ဆောင်ရွက်ခြင်းမရှိ၍ ငှားရမ်းခြင်းကို ရပ်ဆိုင်းသောနေ့သည် စာချုပ် သက်တမ်းကုန်ဆုံးသည့်နေ့ဟု မှတ်ယူရမည်။

**၁၀။ စာချုပ်ရပ်စဲခြင်း**

ဤစာချုပ်သည် အောက်ဖော်ပြပါ အခြေအနေ တစ်ရပ်ရပ်ဖြစ်ပေါ်လာပါက မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်နှင့် အထက်အဖွဲ့အစည်းတို့၏ အတည်ပြုချက်ရရှိသည့် အခါ ရပ်စဲသွား မည်။

(က) စာချုပ်ဝင်နှစ်ဦးနှစ်ဖက်တို့သည် မိမိတို့အသီးသီး၏ လွတ်လပ်သော သဘော ဆန္ဒ အလျောက် စာချုပ်ရပ်စဲရန် သဘောတူပြီး ကော်မရှင်သို့ စာဖြင့်တင်ပြ လျက် ကော်မရှင်ကလည်း သဘောတူခွင့်ပြုသည့်အခါ

(ခ) စာချုပ်ဝင်တစ်ဖက်ဖက်က ဤစာချုပ်ပါ ဆောင်ရွက်ရန်၊ လိုက်နာရန် တာဝန် များ ဆောင်ရွက်ရန် ပျက်ကွက်သည့် အခါ

(ဂ) မလွန်ဆန်နိုင်သော ဖြစ်ရပ်များသည် (၆)လထက်ကျော်လွန် ဖြစ်ပေါ်နေသည့် အခါ

(ဃ) သတ်မှတ်ထားသည့် စီမံကိန်းကာလအတွင်း လုပ်ငန်း၏ မူလရည်မှန်းချက်များ ကို အကောင်အထည်ဖော်နိုင်စွမ်းမရှိသည့်အခါ

(င) စာချုပ်သက်တမ်းကုန်ဆုံးသည့်အခါ

**၁၁။ ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်း**

"အငှားချထားခြင်းခံရသူ" သည် အငှားချထားသည့် မြေဧက (၁၀၀၀)၏ ပတ်ဝန်း ကျင်ရှိ လေထု၊ မြေထု ညစ်ညမ်းမှုမရှိစေရန်နှင့် မီးဘေးလုံခြုံမှုရှိစေရန် ပြည်ထောင်စု မြန်မာနိုင်ငံတော်၏ တည်ဆဲဥပဒေ၊ စည်းမျဉ်းစည်းကမ်း လုပ်ထုံးလုပ်နည်းများနှင့်အညီ စနစ် တကျ စီမံအကောင်အထည် ဖော်ဆောင်ရွက်ရမည်။

**၁၂။ ဓါတ်သတ္တုအရင်းအမြစ်များ**

ဤစာချုပ်ပါ ငှားရမ်းကာလအတွင်း ငှားရမ်းထားသည့် မြေဧက (၁၀၀၀) တည် ရှိရာမြေပေါ် မှ ဓါတ်သတ္တုအရင်းအမြစ်များ၊ ရတနာများ၊ ရှေးဟောင်းအနုပညာ ပစ္စည်းများ၊ သဘာဝသမိုင်းနှင့် သိပ္ပံဆိုင်ရာ အရေးပါသော အရာဝတ္ထုများ၊ သဘာဝသယံဇာတ ပစ္စည်း များကို တွေ့ရှိလျှင် "အငှားချထားခြင်းခံရသူ" သည် သက်ဆိုင်ရာမြန်မာနိုင်ငံအစိုးရ အဖွဲ့ အစည်းများသို့ ချက်ခြင်းအကြောင်း ကြားရမည်။ ထို့ပြင် အထက်ပါပစ္စည်းများအား နိုင်ငံတော် အစိုးရက လွတ်လပ်စွာတူးဖော် ရယူပိုင်ခွင့် ရှိစေရမည်။

**၁၃။ အာမခံကြေးငွေ**

(က) "အငှားချထားခြင်းခံရသူ" သည် အငှားချထားခြင်းခံရသူ၏ လိုက်နာရမည့် စည်းကမ်း ချက်များနှင့် အခွင့်အရေးများ အပိုဒ် (၃) အရ အာမခံကြေးငွေများ ကို လုပ်ငန်းစတင်ဆောင်ရွက်မည့် နေ့ရက်မတိုင်မီ အငှားချထားသူမှ သတ်မှတ် ထားသည့် ဘဏ်တွင်ပေးသွင်းရမည်။ "အငှားချထားခြင်းခံရသူ" သည် ထို အာမခံကြေးငွေကို ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ကျွန်းစိုက်ခင်း စီမံချက် ပါအတိုင်း အပြည့်အဝ စိုက်ပျိုးပြီး တစ်နှစ်ပြည့်၍ သတ်မှတ်ချက်များ အတိုင်း စိုက်ခင်းအောင်မြင်ပါက ပြန်လည် ထုတ်ယူခွင့်ရှိသည်။

(ခ) "အငှားချထားခြင်းခံရသူ" သည် စာချုပ်ပါ စည်းကမ်းတစ်ရပ်ရပ်ကို ချိုး ဖောက်ပါက အငှားချထားသူက အထက်အပိုဒ် (က) ပါ အာမခံကြေးငွေကို သိမ်းယူခွင့်ရှိသည်။

## ၁၄။ မလွန်ဆန်နိုင်သော ဖြစ်ရပ်များ

(က) စာချုပ်ဝင်တစ်ဖက်ဖက်သည် မိမိ၏တာဝန်ဝတ္တရားများကို ဆောင်ရွက်ရာတွင် မလွန် ဆန်နိုင်သော ဖြစ်ရပ်များကြောင့် ပျက်ကွက်ခြင်း၊ နှောင့်နှေးခြင်းများ ရှိပါသဖြင့် အခြားစာချုပ်ဝင် တစ်ဖက်ဖက်တွင် နစ်နာမှုများပေါ်ပေါက်လျှင် ထိုသူသည် ထိုနစ်နာမှုများအတွက် တာဝန်မရှိစေရ။ မလွန်ဆန်နိုင်သော ဖြစ်ရပ်များဆိုသည်မှာ အစိုးရအဖွဲ့ တစ်ဖွဲ့ဖွဲ့၏ တားဆီးမိန့်၊ သပိတ်မှောက်ခြင်း၊ စစ်ဖြစ်မှု၊ လျှောင်လှုပ်ခြင်း၊ ပိတ်ဆို့တားဆီးမှု၊ သူပုန်ထခြင်း၊ အဓိကရုဏ်းဖြစ်မှု၊ ကူးစက်ရောဂါပြန့်ပွားမှု၊ ပေါက်ကွဲမှု၊ မီးလောင်မှု၊ ရေကြီးမှု၊ မုန်တိုင်းကျမှု စသော စာချုပ်ဝင်တစ်ဖက်ဖက်က လိုအပ်သော သတိဝီရိယနှင့် ဆောင်ရွက်စေကာမူ မလွန်ဆန်/ မကျော်လွှားနိုင်သည့် အလားတူဖြစ်ရပ်များဖြစ်သည်။

(ခ) စာချုပ်ဝင်များသည် ထိုကဲ့သို့ မလွန်ဆန်နိုင်သော ဖြစ်ရပ်များနှင့် ကြုံတွေ့ရလျှင် ကြုံတွေ့ရသူက အခြားစာချုပ်ဝင်အား ထိုအဖြစ်အပျက်ဖြစ်ပွားပြီး (၁၅) ရက် အတွင်း ဖြစ်ပွားမှုအခြေအနေအသေးစိတ်ကို အကြောင်းကြားရန်နှင့် ထိုကာလ အတွင်းဖြစ်ပေါ်မှု အခြေအနေ၊ မိမိက ဆုံးဖြတ်ဆောင်ရွက်ရမည့် အခြေအနေများနှင့် အရေးပေါ်ဆောင်ရွက်ခဲ့မှု အခြေအနေများကို အကြောင်းကြားရမည်။ တစ်ဖက်က သဘောတူလက်ခံမှသာ မလွန်ဆန်နိုင်သောဖြစ်ရပ် မြောက်စေရမည်။ အဆိုပါ ဖြစ်ရပ်ကို ကြုံတွေ့ခံစားရသူ၏ တာဝန်များကို ထိုမလွန်ဆန်နိုင်သော ကာလအတွင်း ဆိုင်းငံ့စေရမည်။ သို့ရာတွင် ထိုဆိုင်းငံ့ ကာလသည် အကျိုးအကြောင်း ဆက်နွယ်မှု အရ လိုအပ်သည်ထက်ပိုမို၍ မကြန့်ကြာစေရဘဲ ထိုအဖြစ်အပျက်ကိုလည်း မလွန် ဆန်နိုင်သော ဖြစ်ရပ်ခံရ သူက အမြန်ဆုံးဖြစ်နိုင်သမျှ ဖယ်ရှားပစ်ရမည်။

## ၁၅။ စာချုပ်အားပြင်ဆင်ဖြည့်စွက်ခြင်း

ဤသဘောတူစာချုပ်အား နှစ်ဦးနှစ်ဖက်စာဖြင့် သဘောတူညီမှုမရရှိပဲ၊ ပြင်ဆင် ဖြည့်စွက်ခြင်း လုံးဝမပြုလုပ်ရ။ သို့သော် ခိုင်မာသော ကိစ္စတစ်ရပ်ရပ်ကြောင့် ဤသဘောတူ စာချုပ်ကို ပြင်ဆင်ရန် လိုအပ်ပါက၊ နှစ်ဦးနှစ်ဖက်စာဖြင့် သဘောတူညီမှုရယူ၍ လိုအပ်သလို ပြင်ဆင်ဖြည့်စွက်နိုင်သည်။ ဤသဘောတူစာချုပ်အား ပြင်ဆင်ဖြည့်စွက်ချက် အရပ်ရပ်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်နှင့် အထက်အဖွဲ့အစည်းတို့၏ အတည်ပြုချက်ရရှိမှသာ အတည်ဖြစ်သည်။

## ၁၆။ အငြင်းပွားမှုဖြေရှင်းခြင်း (အနုညာတစီရင်ခြင်း)

ဤသဘောတူစာချုပ်နှင့် ပတ်သက်၍ အငြင်းပွားမှုတစ်စုံတစ်ရာ ပေါ်ပေါက်လာပါက နှစ်ဦး နှစ်ဖက်ပြေလည်စွာ ညှိနှိုင်းဖြေရှင်းရမည်။ ထိုသို့ဖြေရှင်း၍မရပါက၊ ထိုအငြင်းပွားမှုကို တစ်ဖက်စီ က တစ်ဦးစီခန့်ထားသော ခုံလူကြီးနှစ်ဦးဖြင့် ဖြေရှင်းရမည်။ ခုံလူကြီးနှစ်ဦးက မဖြေရှင်း မဆုံးဖြတ် နိုင်လျှင် ခုံလူကြီးနှစ်ဦးက ရွေးချယ်ခန့်ထားသော သမာဓိလူကြီး၏

ဆုံးဖြတ်ချက်ကို ခံယူရမည်။ ခုံလူကြီးနှစ်ဦး (သို့မဟုတ်) သမာဓိလူကြီး၏ ဆုံးဖြတ်ချက်သည် အပြီးဖြစ်စေရမည့်အပြင်၊ နှစ်ဖက်အမှုသည်များအပေါ်၌လည်း အတည်ဖြစ်ရမည်။ အနုညာတ စီရင်ဆုံးဖြတ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းများသည် ၁၉၄၄ ခုနှစ်၊ မြန်မာနိုင်ငံ အနုညာတ စီရင်ဆုံးဖြတ်ခြင်းအက်ဥပဒေ (မြန်မာနိုင်ငံ အက်ဥပဒေအမှတ် - ၄/၁၉၄၄) နှင့် နောက်ပိုင်း ထုတ်ပြန်သော တည်ဆဲပြင်ဆင်ချက်များနှင့်အညီ ဖြစ်စေရမည်။ အနုညာတ စီရင်ဆုံးဖြတ်မည့် နေရာသည် ပြည်ထောင်စုမြန်မာနိုင်ငံတော် ရန်ကုန်မြို့ ဖြစ်စေရမည်။ အမှုအတွက် ကုန်ကျစရိတ်များကို အမှုရှုံးသူကကျခံရမည်။

## ၁၇။ စာပေးစာယူပြုလုပ်ရန်လိပ်စာများ

"အငှားချထားခြင်းခံရသူ" နှင့် "အငှားချထားသူ" တို့အကြားဆက်သွယ်ခြင်း၊ အကြောင်းကြား စာပေးပို့ခြင်းများကို အောက်ပါလိပ်စာအတိုင်း လိပ်မူရမည်။ လိပ်စာ ပြောင်းလဲခြင်းရှိပါက တစ်ဖက် သို့ ချက်ချင်းအသိပေးအကြောင်းကြားရမည်။

| "အငှားချထားသူ" အတွက် | "အငှားချထားခြင်းခံရသူ" အတွက် |
|---|---|
| ညွှန်ကြားရေးမှူးချုပ် | ဦးစိုင်းမျိုးဝင်း |
| သစ်တောဦးစီးဌာန | ၁/ မကတ (နိုင်) ၀၀၀၃၂၆ |
| သစ်တောရေးရာဝန်ကြီးဌာန | အမှတ်(၅၃/၅၄)၊ စက်ဆရာဦးထွန်းလမ်း၊ ရွှေပြည် |
| နေပြည်တော် | သာစက်မှုဇုန်(၄)၊ အင်းစိန်မြို့နယ်၊ ရန်ကုန်မြို့။ |

## ၁၈။ လွှဲပြောင်း၍ မရနိုင်သော အခွင့်အရေးများ

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ၏ လွှဲပြောင်း၍ မရနိုင်သော နိုင်ငံတော်၏ မြေပေါ် မြေအောက်၊ ရေပေါ်ရေအောက် သယံဇာတများကို တစ်ဦးတည်းပိုင်ဆိုင်ခွင့်နှင့် မူလဘူတအခွင့် အရေး ကျင့်သုံးခြင်းကို စာချုပ်ဝင်များ၏ အနုညာတဖြေရှင်းရန် တင်ပြသည့် သဘောတူညီချက် အပါအဝင် ဤစာချုပ်ပါ မည်သည့်ပြဌာန်းချက်ကမျှ တားမြစ်ခြင်း သို့မဟုတ် ကန့်သတ်ခြင်း မပြုနိုင်။

## ၁၉။ အထွေထွေ

(က) ဤစာချုပ်သည် ယခင်က အချင်းချင်းသဘောတူညီချက်များ၊ နားလည်မှုများ အားလုံးကို လွှမ်းမိုးစေရမည်။

(ခ) စာချုပ်၏ နောက်ဆက်တွဲများ၊ ပုံစံများ၊ စာရင်းဇယားများ၊ မြေပုံများအားလုံး သည် ဤစာချုပ်၏ တစ်စိတ်တစ်ဒေသဖြစ်စေရမည်။

အထက်ပါစည်းကမ်းချက်များကို နားလည်သဘောတူလက်ခံကြသည့်အတိုင်း စာချုပ်ဝင် နှစ်ဦးနှစ်ဖက်တို့သည် နေပြည်တော်တွင် အထက်တွင်ဖော်ပြထားသည့် ရက်၊ မတ်လ၊ ၂၀၁၀ ခုနှစ်တွင် အောက်ပါအသိသက်သေ လူကြီးများရှေ့၌ မိမိတို့၏ တံဆိပ်တုံးများ ရိုက်နှိပ်လျှက် လက်မှတ်ရေးထိုးချုပ်ဆိုကြရမည်။

| အငှားချထားသူ (ကိုယ်စား) | အငှားချထားခြင်းခံရသူ |
|---|---|
| | ကျောက်စိမ်းဘုရင်နှင့်ဘုရင်မ ကျောက်မျက်ရတနာ ကုမ္ပဏီလီမိတက်ကိုယ်စား |
| | 17.3.2010 |
| (အေးမြင့်မောင်) | (စိုင်းမျိုးဝင်း) |
| [ညွှန်ကြားရေးမှူးချုပ်] | ၁/ မကတ (နိုင်) ၀၀၀၃၂၆ |
| သစ်တောဦးစီးဌာန | အမှတ်(၅၃/၅၄)၊ စက်ဆရာဦးထွန်းလမ်း၊ |
| နေပြည်တော် | ရွှေပြည်သာစက်မှုဇုန်(၄)၊ အင်းစိန်မြို့နယ်၊ |
| | ရန်ကုန်မြို့ |

## အသိသက်သေများ

| | |
|---|---|
| ၁။ လက်မှတ် ______ | ၂။ လက်မှတ် ______ |
| အမည် (စိန်ထွန်း) | အမည် ဦးဝေယံအောင်အောင် |
| ရာထူး ညွှန်ကြားရေးမှူး စီမံကိန်းနှင့်စာရင်းအင်းဌာန | ရာထူး ၈/မကတ(နိုင်)၀၀၆၃၄၃၆ |
| လိပ်စာ သစ်တောဦးစီးဌာန | လိပ်စာ အမှတ်(၅၃/၅၄)စက်ဆရာဦးထွန်းလမ်း၊ ရွှေပြည်သာစက်မှုဇုန်(၄) အင်းစိန်မြို့နယ် ရန်ကုန်မြို့ |

D:\STD\UPL\Teak\Jade King & Queen\Jade King & Queen bond 08-09doc.doc

ကျောက်စိမ်းဘုရင်နှင့် ဘုရင်မကျောက်မျက်ရတနာ ကုမ္ပဏီလီမိတက်မှ ပုဂ္ဂလိကကျွန်းစိုက်ခင်း ဧက (၁၀၀၀)
စိုက်ပျိုးတည်ဆောက် ထုတ်လုပ်ရောင်းချမည့် တည်နေရာပြမြေပုံ
ပဲခူးတိုင်း (အနောက်ပိုင်း)၊ သာယာဝတီမြို့နယ်၊ သုံးဆယ် ကြိုးဝိုင်း



ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
သစ်တောရေးရာဝန်ကြီးဌာန
သစ်တောဦးစီးဌာန

နှင့်

ကျောက်စိမ်းဘုရင်နှင့် ဘုရင်မ ကျောက်မျက်ရတနာကုမ္ပဏီလီမိတက်တို့အကြား

**"၂၀၀၉ - ၂၀၁၀ ခုနှစ်တွင် တည်ထောင်စိုက်ပျိုးမည့် ပုဂ္ဂလိကကျွန်းစိုက်ခင်းဧက (၂၀၀၀)
စိုက်ပျိုးတည်ထောင် ထုတ်လုပ်ရောင်းချခြင်းဆိုင်ရာစာချုပ်"**

မတ်လ၊ ၂၀၁၀ ခုနှစ်

## သစ်တောဦးစီးဌာန
## နှင့်
## ကျောက်စိမ်းဘုရင်နှင့် ဘုရင်မကျောက်မျက်ရတနာကုမ္ပဏီလီမိတက် တို့အကြားချုပ်ဆိုသည့် " ၂၀၀၉ - ၂၀၁၀ ခုနှစ်တွင် စိုက်ပျိုးတည်ထောင်မည့် ပုဂ္ဂလိကကျွန်းစိုက်ခင်းဧက (၂၀၀၀) စိုက်ပျိုးတည်ထောင် ထုတ်လုပ်ရောင်းချခြင်းဆိုင်ရာစာချုပ်"

ဤစာချုပ်ကို ၂၀၁၀ခုနှစ်၊ မတ်လ၊ .၁၇. ရက်နေ့၌ ဦးအေးမြင့်မောင် ညွှန်ကြားရေးမှူးချုပ် ကိုယ်စားပြုသော သစ်တောရေးရာဝန်ကြီးဌာန၊ သစ်တောဦးစီးဌာန (နောင်တွင် "အငှားချထားသူ"ဟု ခေါ်ဆိုရမည်ဖြစ်ပြီး၊ ယင်းစကားရပ်တွင် ၎င်း၏ဆက်ခံသူများနှင့် ဥပဒေအရ လွှဲအပ်ခြင်းခံရသူများ ပါဝင်သည်ဟုမှတ်ယူရမည်) က တစ်ဖက်နှင့် ကျောက်စိမ်းဘုရင်နှင့် ဘုရင်မကျောက်မျက်ရတနာကုမ္ပဏီလီမိတက်၏ အုပ်ချုပ်မှုဒါရိုက်တာ ဦးစိုင်းမျိုးဝင်း (ဘ) ဦးမောင်ကြင်၊ နိုင်ငံသားစိစစ်ရေးအမှတ်၊ ၁/ မကတ (နိုင်) ၀၀၀၃၂၆၊ [အမှတ်(၅၃/၅၄) စက်ဆရာဦးထွန်းလမ်း၊ ရွှေပြည်သာစက်မှုဇုန် (၄)၊ အင်းစိန်မြို့နယ်၊ ရန်ကုန်မြို့] (နောင်တွင် "အငှားချထားခြင်းခံရသူ" ဟု ခေါ်ဆိုရမည်ဖြစ်ပြီး၊ ယင်းစကားရပ်တွင် ၎င်း၏ တရားဝင်ကိုယ်စားလှယ်များ၊ ဆက်ခံသူများနှင့် ဥပဒေအရ လွှဲအပ်ခံရသူများ ပါဝင်သည်ဟုမှတ်ယူရမည်) က အခြားတစ်ဖက်တို့သည် အောက်ပါ သဘောတူညီမှုများနှင့် အညီ ဤစာချုပ်ကို ချုပ်ဆိုကြပါသည်။

### ၁။ ရည်ရွယ်ချက်

ဤစာချုပ်ကိုချုပ်ဆိုသည့်ရည်ရွယ်ချက်မှာ "အငှားချထားခြင်းခံရသူ"သည် "အငှားချထားသူ" ပိုင်ဆိုင်သော ပဲခူးတိုင်း(အနောက်ပိုင်း)၊ သာယာဝတီမြို့နယ်၊ သုံးဆယ်ကြိုးဝိုင်း၊ အကွက်အမှတ်(၆၄)ပိုင်း၊ (၆၅)ပိုင်း၊ (၆၆)ပိုင်း၊ (၆၇)ပိုင်း၊ (၆၈)ပိုင်း၊ (၆၉)ပိုင်း၊ (၇၀)ပိုင်း၊ (၇၁)ပိုင်းအတွင်း ကျွန်းစိုက်ခင်း ဧက(၂၀၀၀) စိုက်ပျိုးတည်ထောင်ပြီး ကျွန်းသစ်နှင့်ပတ်သက်သော တန်ဖိုးမြှင့်ပစ္စည်းများ ထုတ်လုပ်ရောင်းချ လုပ်ဆောင်သွားရန် ရည်ရွယ်ပါသည်။

### ၂။ အာမခံခြင်းနှင့် ကိုယ်စားပြုခြင်း

"အငှားချထားသူ" က အဆိုပါ သုံးဆယ်ကြိုးဝိုင်းနှင့် ပတ်သက်၍ တရားဝင်ဆောင်ရွက်ခွင့်ရှိကြောင်း၊ "အငှားချထားသူ" နှင့် "အငှားချထားခြင်းခံရသူ" တို့သည် သက်ဆိုင်ရာ တည်ဆဲဥပဒေများအရ ဖွဲ့စည်းထား၍ အခွင့်အာဏာအပ်နှင်းခြင်းခံရသော တရားဝင် ရပ်တည်ခွင့်ရှိသူများဖြစ်ပြီး၊ ဤသဘောတူစာချုပ်ပါ လုပ်ငန်းကို လုပ်ကိုင်ခွင့်ရှိသော ပုဂ္ဂိုလ်များဖြစ်ကြောင်းနှင့် ဤစာချုပ်ကိုချုပ်ဆိုရန် အခွင့်အာဏာရှိသူများ၊ ငွေကြေးအင်အား တောင့်တင်းသူများဖြစ်ကြောင်း အသီးသီးကိုယ်စားပြု အာမခံကြပါသည်။

**၃။ လုပ်ငန်းဘောင်နှင့် လုပ်ဆောင်မှုဖြစ်စဉ်**

(က) အငှားချထားသူ၏စီမံခန့်ခွဲပိုင်ခွင့်ရှိသော သုံးဆယ်ကြိုးဝိုင်းအတွင်းရှိ မြေဧက (၂၀၀၀) ကို "အငှားချထားခြင်းခံရသူ" မှ "အငှားချထားသူ" သို့ တစ်နှစ်လျှင် တစ်ဧကအတွက် ငှားရမ်းခ မြန်မာကျပ်ငွေ (၅၀ဝိ/-) နှုန်းဖြင့် ဧက (၂၀၀၀) အတွက် ၁၀၀၀,၀၀ဝိ/- (ငွေကျပ် ဆယ်သိန်းတိတိ) ကို ပေးအပ်မည်ဖြစ်ပါသည်။

(ခ) "အငှားချထားခြင်းခံရသူ" မှ ကျွန်းစိုက်ခင်းဧက (၂၀၀၀) စိုက်ပျိုးတည်ထောင် ထုတ်လုပ်ရန်အတွက် ကနဦးရင်းနှီးမြှုပ်နှံမှုအဖြစ် အောက်ပါအတိုင်း ဆောင်ရွက်သွားမည်ဖြစ်ပါသည်-

(၁) "အငှားချထားခြင်းခံရသူ" မှ ၂၀၀၉ - ၂၀၁၀ ခုနှစ်တွင် တည်ထောင်မည့် ကျွန်းစိုက်ခင်း ဧက (၂၀၀၀) အတွက် တစ်ဧကလျှင် ၁၅၀,၀၀ဝိ/- နှုန်းဖြင့် မြန်မာကျပ်ငွေ သိန်းပေါင်း (၃၀၀၀) ခန့်ကို ကနဦး ရင်းနှီးမြှုပ်နှံ ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

(၂) "အငှားချထားခြင်းခံရသူ"သည် ၂၀၀၉-၂၀၁၀ ခုနှစ်တွင် သာယာဝတီမြို့နယ်၊ သုံးဆယ်ကြိုးဝိုင်းအတွင်း ကျွန်းစိုက်ခင်း ဧက(၂၀၀၀)ကို စိုက်ပျိုးတည်ထောင် ထုတ်လုပ် ရောင်းချမည်ဖြစ်ပါသဖြင့် အငှားချထားသည့်ကာလကို ၂၀၀၉-၂၀၁၀ ခုနှစ် ကျွန်းစိုက်ခင်း (၂၀၀၀) ဧကအတွက် (၃၅) နှစ် သတ်မှတ်မည်ဖြစ်ပါသည်။

**၄။ ကျွန်းစိုက်ခင်း (၂၀၀၀)ဧက စိုက်ပျိုးတည်ထောင်ထုတ်လုပ်ရောင်းချခြင်းအတွက် ငွေပေးသွင်းမှုနှင့် ယင်း၏စည်းကမ်းသတ်မှတ်ချက်များ**

(က) တစ်ဧကမြေငှားရမ်းခနှုန်းကို ပုံသေသတ်မှတ်ထားခြင်းမပြုလုပ်ပဲ တစ်ချိန်တွင် မြေငှား ရမ်းခနှုန်းကို နိုင်ငံတော်မှသတ်မှတ်သည့်အတိုင်း ပေးသွင်းရန်။

(ခ) "အငှားချထားခြင်းခံရသူ"သည် "အငှားချထားသူ" ထံ လုပ်ငန်းစတင်ရမည့် နေ့ရက် မတိုင်မီ ပေးသွင်းရန်နှင့် သတ်မှတ်သည့်ကာလထက် နောက်ကျပြီး ပေးသွင်းပါက နောက်ကျသည့် ရက်များအတွက် တစ်ရက်လျှင်ဒဏ်ကြေးငွေကျပ် (၁၀၀ဝိ/-) နှုန်း ပေးဆောင်ရပါမည်။

(ဂ) ငှားရမ်းသည့်စာချုပ်ကို လုပ်ငန်းစတင်မည့် ၂၀၀၉ - ၂၀၁၀ ခုနှစ် ဧက(၂၀၀၀) အတွက် စာချုပ်ကာလမှာ ၂၀၁၀ ခုနှစ်၊ မတ်လ၊ ရက်မှ ၂၀၄၅ ခုနှစ်၊ မတ်လ၊ ရက်အထိ (၃၅) နှစ် ဖြစ်ပါသည်။

**၅။ အငှားချထားသူ၏တာဝန်ဝတ္တရား**

"အငှားချထားသူ" သည်

(က) သက်ဆိုင်ရာအာဏာပိုင်များထံမှ လိုအပ်သော ခွင့်ပြုချက်များရယူပေးရမည်။

(ခ) "အငှားချထားခြင်းခံရသူ" က လိုအပ်သော ခွင့်ပြုချက်များ၊ မှတ်ပုံတင်များ၊ လိုင်စင်များ၊ အခြားလိုအပ်သော အချက်အလက်များကို သက်ဆိုင်ရာ ပြည်ထောင်စုမြန်မာ နိုင်ငံတော်၏ အဖွဲ့အစည်းများထံမှ ရယူရာတွင် ကူညီ ဆောင်ရွက်ပေးရမည်။

(ဂ) "အငှားချထားခြင်းခံရသူ" က ငှားရမ်းသည့်ကာလအတွင်း လုပ်ပိုင်ခွင့်ရရှိထားသော မြေဧက (၂၀၀၀) ကို စည်းကမ်းချက်များနှင့်အညီ လက်ဝယ်ထား၍ ဆောင်ရွက်ခွင့် ရှိစေရန်အတွက် "အငှားချထားသူ" ကသော်လည်းကောင်း၊ ယင်း၏ ကိုယ်စားပြုသူက သော်လည်းကောင်း၊ ဝင်ရောက်စွက်ဖက်ခြင်း၊ နှောက်ယှက်ခြင်းများမပြုရန် တာဝန်ယူ ရမည်။

(ဃ) "အငှားချထားခြင်းခံရသူ" က မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ထံသို့ စီမံကိန်း ဆိုင်ရာ လုပ်ငန်းများအတွက် အခွန်အခကင်းလွတ်ခွင့်၊ သက်သာခွင့်နှင့် အခြားအထူး ခံစားခွင့်များ လျှောက်ထားရာတွင် ကူညီဆောင်ရွက်ပေးရမည်။

(င) "အငှားချထားခြင်းခံရသူ" က စီမံကိန်းလုပ်ငန်းများ ဆောင်ရွက်ရာတွင် လိုအပ်သော ကုန်ကြမ်းများ၊ စက်ယန္တရားများ၊ မျိုးစေ့များ၊ လုပ်ငန်းသုံး ပစ္စည်းများကို ပြည်တွင်း ပြည်ပမှ တင်သွင်းရာတွင် အကောက်ခွန်ရှင်းလင်းမှုနှင့် သယ်ယူပို့ဆောင်ရေး၌ လိုအပ်သလို ကူညီဆောင်ရွက်ပေးရမည်။

**၆။ အငှားချထားခြင်းခံရသူ၏ လိုက်နာရမည့်စည်းကမ်းချက်များနှင့် အခွင့်အရေးများ**

(၁) လုပ်ကိုင်ခွင့်ပြုထားသည့် မြေပေါ်တွင် သတ်မှတ်ထားသည့် နှစ်ကာလအတွင်း ဧရိယာ အားလုံး သို့မဟုတ် အငှားချထားသူက ကင်းလွတ်ခွင့်ပြုသည့် ဧရိယာမှအပ ကျန်မြေဧရိယာ အားလုံး အပြည့်အဝ စိုက်ပျိုးပြီး ဖြစ်ရမည်။

(၂) လုပ်ကိုင်ခွင့်ပြုထားသည့် မြေပေါ်တွင် ကျွန်းစိုက်ခင်းကို အနှောက်အယှက်မပြုသည့် တောင်ယာသီးနှံ/ သီးနှံသစ်တော ရောနှောစိုက်ပျိုးခြင်း (Agro forestry) လုပ်ငန်းမှအပ အခြား လုပ်ငန်းကို ခွင့်ပြုချက်မရှိပဲ လုပ်ကိုင်ခြင်းမပြုရ။

(၃) လုပ်ငန်းလုပ်ကိုင်ခွင့်အတွက် နှစ်စဉ်စိုက်ပျိုးမည့် စီမံချက်ပါ ဧကအလိုက် အာမခံကြေးငွေ တစ်ဧကလျှင် ၁၀၀၀ိ/- (ကျပ်တစ်ထောင်တိတိ) ကို လုပ်ငန်းစတင် ဆောင်ရွက်မည့် နေ့ရက် မတိုင်မီ အငှားချထားသူမှ သတ်မှတ်ထားသည့် ဘဏ်တွင် ပေးသွင်းရမည်။ ထိုအာမခံကြေးငွေကို ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ကျွန်းစိုက်ခင်း စီမံချက်ပါ အတိုင်း အပြည့်အဝစိုက်ပျိုးပြီး တစ်နှစ်ပြည့်၍ သတ်မှတ်ချက်များအတိုင်း စိုက်ခင်း အောင်မြင်ပါက ပြန်လည်ထုတ်ယူခွင့်ရှိသည်။

(၄) လုပ်ကိုင်ခွင့်ပြုထားသည့် မြေပေါ်တွင် လုပ်ကိုင်မည့် လုပ်ငန်းအစီအစဉ်များကို ကြိုတင် ရေးဆွဲပြီး အငှားချထားသူက အတည်ပြုထားသည့် စီမံချက်ပါအတိုင်း သတ်မှတ်ထားသော အချိန်ကာလများနှင့် အညီ ပြီးစီးအောင် ဆောင်ရွက်ရမည်။ လုပ်ငန်းအစီအစဉ်အတိုင်း ခိုင်လုံ သော အကြောင်းမရှိဘဲ ဆောင်ရွက်နိုင်ခြင်းမရှိဟု ယူဆရန် အထောက်အထားများ ခိုင်လုံပါက အစိုးရ အဖွဲ့၏ ခွင့်ပြုချက်ဖြင့် လုပ်ကိုင်ခွင့်ကို ပြန်လည်ရုပ်သိမ်းခြင်းခံရမည့်အပြင် သစ်တော ပျက်စီး ဆုံးရှုံးမှုအတွက် ထိုက်သင့်သော လျော်ကြေးငွေကို ပေးဆောင်ရမည်။ ထို့အပြင် ပေးသွင်းထားသည့် အာမခံကြေးငွေကိုလည်း သိမ်းဆည်းခြင်းခံရမည်။

(၅) လုပ်ကိုင်ခွင့်ပြုထားသည့် မြေဧရိယာအတွင်း ပေါက်ရောက်နေသည့် ကျွန်းနှင့် တားမြစ် သစ်ပင်များကို သစ်တောဦးစီးဌာန၏ ခွင့်ပြုချက်မရရှိဘဲ ခုတ်လှဲခြင်း၊ ပိုင်းဖြတ်ခြင်း၊ သင်းသတ် ခြင်း၊ ထစ်မှတ်ခြင်း၊ ချိုးဖျက်ခြင်း၊ ဖောက်ထွင်းခြင်း၊ မီးသို့မဟုတ် အခြားနည်းဖြင့် ပျက်စီးစေခြင်း၊ ထုတ်ယူခြင်း၊ သယ်ယူရွှေ့ပြောင်းခြင်းနှင့် လက်ဝယ်ထားခြင်းမပြုရ။

(၆) လုပ်ကိုင်ခွင့်ပြုထားသည့် မြေဧရိယာအတွင်း မြေပေါ်မြေအောက် သယံဇာတ ပစ္စည်းများကို တည်ဆဲဥပဒေတစ်ရပ်ရပ်အရ သီးခြားခွင့်ပြုချက်မရှိဘဲ ရှာဖွေခြင်း၊ တူးဖော် ခြင်း၊ ထုတ်ယူခြင်းမပြုရ။

(၇) လုပ်ကိုင်ခွင့်ရရှိသည့် သက်တမ်းအတွင်း လုပ်ကိုင်ခွင့်ရရှိသူ ကွယ်လွန်လျှင် ၎င်း၏ အမွေ ဆက်ခံခွင့်ရရှိသူက ခိုင်လုံသောအထောက်အထားများ တင်ပြ၍ သစ်တောရေးရာ ဝန်ကြီးဌာန၏ ခွင့်ပြုချက်ဖြင့် ဆက်လက်လုပ်ကိုင်ခွင့်ရှိသည်။

(၈) လုပ်ကိုင်ခွင့်ပြုထားသည့် မြေအားလုံးကိုသော်လည်းကောင်း၊ တစ်စိတ်တစ်ဒေသ ကိုသော် လည်းကောင်း၊ သစ်တောရေးရာဝန်ကြီးဌာန၏ ခွင့်ပြုချက်မရရှိဘဲ ပေါင်နှံခြင်း၊ ရောင်းချခြင်း သို့မဟုတ် အခြားတစ်နည်းနည်းဖြင့် လွှဲပြောင်းခြင်းမပြုရ။

(၉) ကျွန်းစိုက်ခင်း တည်ထောင်ရာတွင် မျိုးကောင်းမျိုးသန့်အပင်များမှ ခန္ဓာပိုင်း မျိုးပွားနည်း (Vegetative Propagation) ဖြင့် ထုတ်လုပ်ထားသည့် ပျိုးပင်များကို အတတ်နိုင်ဆုံး အသုံးပြု ရမည့်အပြင် ရေရှည်တွင် ကျွန်းမျိုးသန့်ဥယျာဉ် (Seed Orchard) တည်ထောင်ရမည်။ ထို့အပြင် မျိုးကောင်းမျိုးသန့် ထုတ်လုပ်ရေးအတွက် သုတေသနနှင့် ဖွံ့ဖြိုးရေးလုပ်ငန်းများ (Research and Development) ကို ဆောင်ရွက်ရမည်။

(၁၀) ကျွန်းစိုက်ခင်းတည်ထောင်ရာတွင် သဘာဝဝန်းကျင် ယိုယွင်းပျက်စီးခြင်း မရှိစေရေး အတွက် သစ်တောဦးစီးဌာန၏ သစ်တောစိုက်ခင်းတည်ထောင်ခြင်းနှင့် ပြုစုထိန်းသိမ်းခြင်း ဆိုင်ရာ နည်းစနစ်များနှင့် စည်းကမ်းချက်များကို လိုက်နာဆောင်ရွက်ရမည်။

(၁၁) အငှားချထားသူ၏ ခွင့်ပြုသတ်မှတ်ချက်နှင့်အညီ သစ်တောစိုက်ခင်းလုပ်သားများ စုစည်း နေထိုင်နိုင်ရေးနှင့် ၎င်းတို့၏ လူနေမှုဘဝ အဆင်ပြေစေရေးအတွက် သစ်တောရွာ တည်ထောင်ပေး ရမည်။

(၁၂) ကျွန်းစိုက်ခင်း မှတ်တမ်းစာအုပ်ထားရှိ၍ လုပ်ငန်းဆောင်ရွက်ချက်များကို အသေးစိတ် မှန်ကန်စွာ ဖြည့်စွက်ထားရှိရမည်။ အငှားချထားသူမှ တာဝန်ရှိသူများ အခါအားလျော်စွာ လာရောက် ကြည့်ရှုစစ်ဆေး၍ အကြံပြုချက်များ၊ မှတ်ချက်များ ရေးသားပါက ယင်းအကြံပြု ချက်များ၊ မှတ်ချက် များနှင့်အညီ ဆက်လက်ဆောင်ရွက်ရမည်။

(၁၃) မြေငှားရမ်းခအဖြစ် တစ်ဧကအတွက် တစ်နှစ်လျှင် ကျပ် ၅၀ဝိ/- (ကျပ် ငါးရာ တိတိ) နှုန်း ဖြင့် လုပ်ငန်းစတင်ရမည့် နေ့ရက်မတိုင်မီနှင့် နောက်နှစ်များတွင် ဆက်လက်လုပ်ကိုင်မည့် နှစ်အတွက် ပထမဆုံး နေ့ရက်မတိုင်မီ သစ်တောဦးစီးဌာနသို့ နှစ်စဉ် ပေးသွင်းရမည်။

(၁၄) ကျွန်းစိုက်ခင်းတွင် ပင်ကျပ်နုတ်ခြင်းနှင့် နောက်ဆုံးတောထွက် (Final Yield) ထုတ်လုပ် ခြင်း လုပ်ငန်းများကို သစ်တောဦးစီးဌာန၏ ခွင့်ပြုချက်ရယူပြီး ကျွန်းစိုက်ခင်း တည်ထောင် ခြင်းနှင့် ပြုစုထိန်းသိမ်းခြင်းဆိုင်ရာ နည်းစနစ်များနှင့်အညီ ဆောင်ရွက်ရမည်။

(၁၅) ကျွန်းစိုက်ခင်းမှ ပင်ကျပ်နုတ်ခြင်းနှင့် နောက်ဆုံးတောထွက် ထုတ်လုပ်ခြင်းလုပ်ငန်းများ ဆောင်ရွက်သည့်အခါ သစ်တောဦးစီးဌာနမှ သတ်မှတ်ထားသည့် တံဆိပ်အမှတ်အသားများ ရိုက်မှတ်ပြီးမှ ခုတ်လှဲခြင်းနှင့် ထုတ်ယူခြင်း ပြုရမည်။

(၁၆) ကျွန်းစိုက်ခင်းမှ ထုတ်လုပ်ထွက်ရှိသည့် ကျွန်းမျော၊ ကျွန်းတိုင်၊ ကျွန်းသစ်များကို စိုက်ခင်း ဧရိယာအတွင်း၌ သစ်တောဦးစီးဌာနက အကောက်တံဆိပ် ရိုက်မှတ်ပြီးသည့်အခါ သတ်မှတ် စည်းကြပ်သည့် အခွန်ငွေကို ပေးဆောင်ရမည်။

(၁၇) သတ်မှတ်စည်းကြပ်သည့် အခွန်ငွေ ပေးဆောင်ပြီးဖြစ်သော ကျွန်းမျော၊ ကျွန်းတိုင်၊ ကျွန်း သစ်များကို နိုင်ငံတော်က ချမှတ်ထားသည့် မူဝါဒများနှင့် သစ်တောဦးစီးဌာန၏ စည်းမျဉ်း စည်းကမ်း များနှင့် အညီ ပြည်တွင်း၊ ပြည်ပသို့ ရောင်းချနိုင်သည်။

(၁၈) ကျွန်းစိုက်ခင်းတွင် ပင်ကျပ်နုတ်ခြင်းမှ ကြားတောထွက် (Intermediate Yield) အဖြစ် ထုတ်လုပ်ထွက်ရှိသည့် ကျွန်းမျော၊ ကျွန်းတိုင်၊ ကျွန်းသစ်များကို လုပ်ငန်းရှင်မှ ရယူခံစားခွင့်ရှိပြီး နောက်ဆုံးတောထွက်အဖြစ် ထုတ်လုပ်ထွက်ရှိသည့် ကျွန်းသစ်များကို ပြည်တွင်းပြည်ပသို့ ရောင်းချ သည့်အခါ စုစုပေါင်းရရှိသည့် ထုတ်လုပ်မှုပမာဏ သို့မဟုတ် တန်ဖိုး၏ ၂၅ % ကို သစ်တောရေးရာ ဝန်ကြီးဌာန၏ သတ်မှတ်ချက်နှင့်အညီ ပေးအပ်ရမည်။

(၁၉) လုပ်ကိုင်ခွင့်ပြုသော မြေအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို နိုင်ငံတော်နှင့် အများ ပြည်သူအကျိုးအတွက် တည်ဆဲဥပဒေနှင့်အညီ ပြန်လည် သိမ်းယူသည့်အခါ ကျွန်းစိုက်ခင်း လုပ်ငန်း တည်ထောင်သည့် ရင်းနှီးမြှုပ်နှံငွေများနှင့် သင့်လျော်သည့် လျော်ကြေးငွေကို ရထိုက်ခွင့်ရှိသည်။ ထိုသို့ သိမ်းယူသည့်အခါ သစ်တောရေးရာဝန်ကြီးဌာနက ညွှန်ကြားသည့်အတိုင်း ပြန်လည် အပ်နှံ ရမည်။

(၂၀) လုပ်ကိုင်ခွင့်ရရှိသည့် မြေပေါ်တွင် ကျွန်းစိုက်ခင်းစိုက်ပျိုးပြီး (၈) နှစ် ပြည့်ပြီးသည့်အခါ သစ်တောရေးရာဝန်ကြီးဌာန၏ ခွင့်ပြုချက်ဖြင့် ရောင်းချခွင့် ရှိသည်။

(၂၁) အထက်ဖော်ပြပါ စည်းကမ်းချက်အပိုဒ်တစ်ခုခုကို ပြင်ဆင်လိုပါက သစ်တောရေးရာ ဝန်ကြီး ဌာန၏ ခွင့်ပြုချက်ဖြင့် ပြင်ဆင်ခွင့်ရှိသည်။

**၇။ စာချုပ်စတင်အကျိုးသက်ရောက်သောနေ့**

ဤစာချုပ်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်နှင့် အထက်အဖွဲ့အစည်းတို့၏ အတည် ပြုချက်ရရှိပြီးနောက် အသိသက်သေများရှေ့တွင် နှစ်ဦးနှစ်ဖက် လက်မှတ်ရေး ထိုးသော နေ့ရက်မှ စတင် အကျိုးသက်ရောက်မှု ရှိစေရမည်။

**၈။ စာချုပ်သက်တမ်းကာလ**

ငှားရမ်းလုပ်ကိုင်ခွင့်ပြုသည့် ကာလ (၃၅) နှစ်ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင် နှင့် အထက်အဖွဲ့အစည်းတို့၏ အတည်ပြုချက်ရရှိပြီးနောက် နှစ်ဦးနှစ်ဖက် လက်မှတ်ရေးထိုး သော နေ့ရက်မှ စတင်ရေတွက်သွား မည်ဖြစ်သည်။

**၉။ စာချုပ်သက်တမ်းကုန်ဆုံးခြင်း**

ဤစာချုပ်သက်တမ်းသည် ငှားရမ်းကာလပြည့်မြောက်သည့်နေ့ (သို့) စာချုပ်ပါ လုပ်ငန်းများ ကို "အငှားချထားခြင်းခံရသူ"နှင့် "အငှားချထားသူ" တို့ အပြည့်အဝ ပြီးဆုံးအောင် ဆောင်ရွက်ပြီး သည့်နေ့တွင် ကုန်ဆုံးသည်ဟုမှတ်ယူရမည်။ သို့သော် "အငှားချထားခြင်း ခံရသူ"၏ ပျက်ကွက်မှု ကြောင့် "အငှားချထားသူ" က စာချုပ်ပါ စည်းကမ်းချက်နှင့်အညီ ဆောင်ရွက်ရန် တရားဝင်စာဖြင့် အကြောင်းကြားသော်လည်း (၁) လအတွင်း စီမံကိန်း လုပ်ငန်းများကို ဆောင်ရွက်ခြင်းမရှိ၍ ငှားရမ်းခြင်းကို ရပ်ဆိုင်းသောနေ့သည် စာချုပ် သက်တမ်းကုန်ဆုံးသည့်နေ့ဟု မှတ်ယူရမည်။

**၁၀။ စာချုပ်ရပ်စဲခြင်း**

ဤစာချုပ်သည် အောက်ဖော်ပြပါ အခြေအနေ တစ်ရပ်ရပ်ဖြစ်ပေါ်လာပါက မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်နှင့် အထက်အဖွဲ့အစည်းတို့၏ အတည်ပြုချက်ရရှိသည့် အခါ ရပ်စဲသွား မည်။

(က) စာချုပ်ဝင်နှစ်ဦးနှစ်ဖက်တို့သည် မိမိတို့အသီးသီး၏ လွတ်လပ်သော သဘော ဆန္ဒ အလျောက် စာချုပ်ရပ်စဲရန် သဘောတူပြီး ကော်မရှင်သို့ စာဖြင့်တင်ပြ လျက် ကော်မရှင်ကလည်း သဘောတူခွင့်ပြုသည့်အခါ

(ခ) စာချုပ်ဝင်တစ်ဖက်ဖက်က ဤစာချုပ်ပါ ဆောင်ရွက်ရန်၊ လိုက်နာရန် တာဝန် များ ဆောင်ရွက်ရန် ပျက်ကွက်သည့် အခါ

(ဂ) မလွန်ဆန်နိုင်သော ဖြစ်ရပ်များသည် (၆)လထက်ကျော်လွန် ဖြစ်ပေါ်နေသည့် အခါ

(ဃ) သတ်မှတ်ထားသည့် စီမံကိန်းကာလအတွင်း လုပ်ငန်း၏ မူလရည်မှန်းချက်များ ကို အကောင်အထည်ဖော်နိုင်စွမ်းမရှိသည့်အခါ

(င) စာချုပ်သက်တမ်းကုန်ဆုံးသည့်အခါ

**၁၁။ ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်း**

"အငှားချထားခြင်းခံရသူ" သည် အငှားချထားသည့် မြေဧက (၂၀၀၀)၏ ပတ်ဝန်း ကျင်ရှိ လေထု၊ မြေထု ညစ်ညမ်းမှုမရှိစေရန်နှင့် မီးဘေးလုံခြုံမှုရှိစေရန် ပြည်ထောင်စု မြန်မာနိုင်ငံတော်၏ တည်ဆဲဥပဒေ၊ စည်းမျဉ်းစည်းကမ်း လုပ်ထုံးလုပ်နည်းများနှင့်အညီ စနစ် တကျ စီမံအကောင်အထည် ဖော်ဆောင်ရွက်ရမည်။

**၁၂။ ဓါတ်သတ္တုအရင်းအမြစ်များ**

ဤစာချုပ်ပါ ငှားရမ်းကာလအတွင်း ငှားရမ်းထားသည့် မြေဧက (၂၀၀၀) တည် ရှိရာမြေပေါ် မှ ဓါတ်သတ္တုအရင်းအမြစ်များ၊ ရတနာများ၊ ရှေးဟောင်းအနုပညာ ပစ္စည်းများ၊ သဘာဝသမိုင်းနှင့် သိပ္ပံဆိုင်ရာ အရေးပါသော အရာဝတ္ထုများ၊ သဘာဝသယံဇာတ ပစ္စည်း များကို တွေ့ရှိလျှင် "အငှားချထားခြင်းခံရသူ" သည် သက်ဆိုင်ရာမြန်မာနိုင်ငံအစိုးရ အဖွဲ့ အစည်းများသို့ ချက်ခြင်းအကြောင်း ကြားရမည်။ ထို့ပြင် အထက်ပါပစ္စည်းများအား နိုင်ငံတော် အစိုးရက လွတ်လပ်စွာတူးဖော် ရယူပိုင်ခွင့် ရှိစေရမည်။

**၁၃။ အာမခံကြေးငွေ**

(က) "အငှားချထားခြင်းခံရသူ" သည် အငှားချထားခြင်းခံရသူ၏ လိုက်နာရမည့် စည်းကမ်း ချက်များနှင့် အခွင့်အရေးများ အပိုဒ် (၃) အရ အာမခံကြေးငွေများ ကို လုပ်ငန်းစတင်ဆောင်ရွက်မည့် နေ့ရက်မတိုင်မီ အငှားချထားသူမှ သတ်မှတ် ထားသည့် ဘဏ်တွင်ပေးသွင်းရမည်။ "အငှားချထားခြင်းခံရသူ" သည် ထို အာမခံကြေးငွေကို ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ကျွန်းစိုက်ခင်း စီမံချက် ပါအတိုင်း အပြည့်အဝ စိုက်ပျိုးပြီး တစ်နှစ်ပြည့်၍ သတ်မှတ်ချက်များ အတိုင်း စိုက်ခင်းအောင်မြင်ပါက ပြန်လည် ထုတ်ယူခွင့်ရှိသည်။

(ခ) "အငှားချထားခြင်းခံရသူ" သည် စာချုပ်ပါ စည်းကမ်းတစ်ရပ်ရပ်ကို ချိုး ဖောက်ပါက အငှားချထားသူက အထက်အပိုဒ် (က) ပါ အာမခံကြေးငွေကို သိမ်းယူခွင့်ရှိသည်။

## ၁၄။ မလွန်ဆန်နိုင်သော ဖြစ်ရပ်များ

(က) စာချုပ်ဝင်တစ်ဖက်ဖက်သည် မိမိ၏တာဝန်ဝတ္တရားများကို ဆောင်ရွက်ရာတွင် မလွန် ဆန်နိုင်သော ဖြစ်ရပ်များကြောင့် ပျက်ကွက်ခြင်း၊ နှောင့်နှေးခြင်းများ ရှိပါသဖြင့် အခြားစာချုပ်ဝင် တစ်ဖက်ဖက်တွင် နစ်နာမှုများပေါ်ပေါက်လျှင် ထိုသူသည် ထိုနစ်နာမှုများအတွက် တာဝန်မရှိစေရ။ မလွန်ဆန်နိုင်သော ဖြစ်ရပ်များဆိုသည်မှာ အစိုးရအဖွဲ့ တစ်ဖွဲ့ဖွဲ့၏ တားဆီးမိန့်၊ သပိတ်မှောက်ခြင်း၊ စစ်ဖြစ်မှု၊ ငလျှင်လှုပ်ခြင်း၊ ပိတ်ဆို့တားဆီးမှု၊ သူပုန်ထခြင်း၊ အဓိကရုဏ်းဖြစ်မှု၊ ကူးစက်ရောဂါပြန့်ပွားမှု၊ ပေါက်ကွဲမှု၊ မီးလောင်မှု၊ ရေကြီးမှု၊ မုန်တိုင်းကျမှု စသော စာချုပ်ဝင်တစ်ဖက်ဖက်က လိုအပ်သော သတိဝီရိယနှင့် ဆောင်ရွက် စေကာမူ မလွန်ဆန်/ မကျော်လွှားနိုင်သည့် အလားတူဖြစ်ရပ်များဖြစ်သည်။

(ခ) စာချုပ်ဝင်များသည် ထိုကဲ့သို့ မလွန်ဆန်နိုင်သော ဖြစ်ရပ်များနှင့် ကြုံတွေ့ ရလျှင် ကြုံတွေ့ရသူက အခြားစာချုပ်ဝင်အား ထိုအဖြစ်အပျက်ဖြစ်ပွားပြီး (၁၅) ရက် အတွင်း ဖြစ်ပွားမှုအခြေအနေအသေးစိတ်ကို အကြောင်းကြားရန်နှင့် ထိုကာလ အတွင်းဖြစ်ပေါ်မှု အခြေအနေ၊ မိမိက ဆုံးဖြတ်ဆောင်ရွက်ရမည့် အခြေအနေများနှင့် အရေးပေါ်ဆောင်ရွက်ခဲ့မှု အခြေအနေများကို အကြောင်း ကြားရမည်။ တစ်ဖက်က သဘောတူလက်ခံမှသာ မလွန်ဆန်နိုင်သောဖြစ်ရပ် မြောက်စေရမည်။ အဆိုပါ ဖြစ်ရပ်ကို ကြုံတွေ့ခံစားရသူ၏ တာဝန်များကို ထိုမလွန်ဆန်နိုင်သော ကာလအတွင်း ဆိုင်းငံ့စေရမည်။ သို့ရာတွင် ထိုဆိုင်းငံ့ ကာလသည် အကျိုးအကြောင်း ဆက်နွယ်မှု အရ လိုအပ်သည်ထက်ပိုမို၍ မကြန့်ကြာစေရဘဲ ထိုအဖြစ်အပျက်ကိုလည်း မလွန် ဆန်နိုင်သော ဖြစ်ရပ်ခံရ သူက အမြန်ဆုံးဖြစ်နိုင်သမျှ ဖယ်ရှားပစ်ရမည်။

## ၁၅။ စာချုပ်အားပြင်ဆင်ဖြည့်စွက်ခြင်း

ဤသဘောတူစာချုပ်အား နှစ်ဦးနှစ်ဖက်စာဖြင့် သဘောတူညီမှုမရရှိပဲ၊ ပြင်ဆင် ဖြည့်စွက်ခြင်း လုံးဝမပြုလုပ်ရ။ သို့သော် ခိုင်မာသော ကိစ္စတစ်ရပ်ရပ်ကြောင့် ဤသဘောတူ စာချုပ်ကို ပြင်ဆင်ရန် လိုအပ်ပါက၊ နှစ်ဦးနှစ်ဖက်စာဖြင့် သဘောတူညီမှုရယူ၍ လိုအပ်သလို ပြင်ဆင်ဖြည့်စွက်နိုင်သည်။ ဤသဘောတူစာချုပ်အား ပြင်ဆင်ဖြည့်စွက်ချက် အရပ်ရပ်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်နှင့် အထက်အဖွဲ့အစည်းတို့၏ အတည်ပြုချက်ရရှိမှသာ အတည်ဖြစ်သည်။

## ၁၆။ အငြင်းပွားမှုဖြေရှင်းခြင်း (အနုညာတစီရင်ခြင်း)

ဤသဘောတူစာချုပ်နှင့် ပတ်သက်၍ အငြင်းပွားမှုတစ်စုံတစ်ရာ ပေါ်ပေါက်လာပါက နှစ်ဦး နှစ်ဖက်ပြေလည်စွာ ညှိနှိုင်းဖြေရှင်းရမည်။ ထိုသို့ဖြေရှင်း၍မရပါက၊ ထိုအငြင်းပွားမှုကို တစ်ဖက်စီ က တစ်ဦးစီခန့်ထားသော ခုံလူကြီးနှစ်ဦးဖြင့် ဖြေရှင်းရမည်။ ခုံလူကြီးနှစ်ဦးက မဖြေရှင်း မဆုံးဖြတ် နိုင်လျှင် ခုံလူကြီးနှစ်ဦးက ရွေးချယ်ခန့်ထားသော သမာဓိလူကြီး၏

ဆုံးဖြတ်ချက်ကို ခံယူရမည်။ ခုံလူကြီးနှစ်ဦး (သို့မဟုတ်) သမာဓိလူကြီး၏ ဆုံးဖြတ်ချက်သည် အပြီးဖြစ်စေရမည့်အပြင်၊ နှစ်ဖက်အမှုသည်များအပေါ်၌လည်း အတည်ဖြစ်ရမည်။ အနုညာတစီရင်ဆုံးဖြတ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းများသည် ၁၉၄၄ ခုနှစ်၊ မြန်မာနိုင်ငံ အနုညာတစီရင်ဆုံးဖြတ်ခြင်းအက်ဥပဒေ (မြန်မာနိုင်ငံ အက်ဥပဒေအမှတ် - ၄/၁၉၄၄) နှင့် နောက်ပိုင်းထုတ်ပြန်သော တည်ဆဲပြင်ဆင်ချက်များနှင့်အညီ ဖြစ်စေရမည်။ အနုညာတ စီရင်ဆုံးဖြတ်မည့်နေရာသည် ပြည်ထောင်စုမြန်မာနိုင်ငံတော် ရန်ကုန်မြို့ ဖြစ်စေရမည်။ အမှုအတွက် ကုန်ကျစရိတ်များကို အမှုရှုံးသူကကျခံရမည်။

## ၁၇။ စာပေးစာယူပြုလုပ်ရန်လိပ်စာများ

"အငှားချထားခြင်းခံရသူ" နှင့် "အငှားချထားသူ" တို့အကြားဆက်သွယ်ခြင်း၊ အကြောင်းကြား စာပေးပို့ခြင်းများကို အောက်ပါလိပ်စာအတိုင်း လိပ်မူရမည်။ လိပ်စာပြောင်းလဲခြင်းရှိပါက တစ်ဖက် သို့ ချက်ချင်းအသိပေးအကြောင်းကြားရမည်။

| <u>"အငှားချထားသူ" အတွက်</u> | <u>"အငှားချထားခြင်းခံရသူ" အတွက်</u> |
|---|---|
| ညွှန်ကြားရေးမှူးချုပ် | ဦးစိုင်းမျိုးဝင်း |
| သစ်တောဦးစီးဌာန | ၁/ မကတ (နိုင်) ၁၀၀၃၂၆ |
| သစ်တောရေးရာဝန်ကြီးဌာန | အမှတ်(၅၃/၅၄)၊ စက်ဆရာဦးထွန်းလမ်း၊ ရွှေပြည် |
| နေပြည်တော် | သာစက်မှုဇုန်(၄)၊ အင်းစိန်မြို့နယ်၊ ရန်ကုန်မြို့။ |

## ၁၈။ လွှဲပြောင်း၍ မရနိုင်သော အခွင့်အရေးများ

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ၏ လွှဲပြောင်း၍ မရနိုင်သော နိုင်ငံတော်၏ မြေပေါ် မြေအောက်၊ ရေပေါ်ရေအောက် သယံဇာတများကို တစ်ဦးတည်းပိုင်ဆိုင်ခွင့်နှင့် မူလဘူတအခွင့် အရေး ကျင့်သုံးခြင်းကို စာချုပ်ဝင်များ၏ အနုညာတဖြေရှင်းရန် တင်ပြသည့် သဘောတူညီချက် အပါအဝင် ဤစာချုပ်ပါ မည်သည့်ပြဋ္ဌာန်းချက်ကမျှ တားမြစ်ခြင်း သို့မဟုတ် ကန့်သတ်ခြင်း မပြုနိုင်။

## ၁၉။ အထွေထွေ

(က) ဤစာချုပ်သည် ယခင်က အချင်းချင်းသဘောတူညီချက်များ၊ နားလည်မှုများအားလုံးကို လွှမ်းမိုးစေရမည်။

(ခ) စာချုပ်၏ နောက်ဆက်တွဲများ၊ ပုံစံများ၊ စာရင်းဇယားများ၊ မြေပုံများအားလုံးသည် ဤစာချုပ်၏ တစ်စိတ်တစ်ဒေသဖြစ်စေရမည်။

အထက်ပါစည်းကမ်းချက်များကို နားလည်သဘောတူလက်ခံကြသည့်အတိုင်း စာချုပ်ဝင် နှစ်ဦးနှစ်ဖက်တို့သည် နေပြည်တော်တွင် အထက်တွင်ဖော်ပြထားသည့် ရက်၊ မတ်လ၊ ၂၀၁၀ ခုနှစ်တွင် အောက်ပါအသိသက်သေ လူကြီးများရှေ့၌ မိမိတို့၏ တံဆိပ်တုံးများ ရိုက်နှိပ်လျှက် လက်မှတ်ရေးထိုးချုပ်ဆိုကြရမည်။

| <u>အငှားချထားသူ (ကိုယ်စား)</u> | <u>အငှားချထားခြင်းခံရသူ</u> |
|---|---|
| | ကျောက်စိမ်းဘုရင်နှင့်ဘုရင်မ ကျောက်မျက်ရတနာ ကုမ္ပဏီလီမိတက်ကိုယ်စား |
| | Jade King & Queen Gems & Jewellery Co., Ltd. ★ J K & Q |
| | 17.3.2010 |
| (အေးမြင့်မောင်) | (စိုင်းမျိုးဝင်း) |
| [ညွှန်ကြားရေးမှူးချုပ်] | ၁/ မကတ (နိုင်) ၀၀၀၃၂၆ |
| သစ်တောဦးစီးဌာန | အမှတ်(၅၃/၅၄)၊ စက်ဆရာဦးထွန်းလမ်း၊ |
| နေပြည်တော် | ရွှေပြည်သာစက်မှုဇုန်(၄)၊ အင်းစိန်မြို့နယ်၊ |
| | ရန်ကုန်မြို့ |

<u>အသိသက်သေများ</u>

| | |
|---|---|
| ၁။ လက်မှတ် ________ 17.3.2010 | ၂။ လက်မှတ် ________ |
| အမည် (စိန်ထွန်း) | အမည် ဦးဝေယံအောင်ကျော် |
| ရာထူး ညွှန်ကြားရေးမှူး စီမံကိန်းနှင့်စာရင်းအင်းဌာန | ရာထူး [illegible] |
| လိပ်စာ သစ်တောဦးစီးဌာန | လိပ်စာ အမှတ်(၅၃/၅၄) စက်ဆရာ ဦးထွန်းလမ်း၊ ရွှေပြည်သာ စက်မှုဇုန်(၄) အင်းစိန်မြို့နယ် ရန်ကုန်မြို့ |

ကျောက်စိမ်းဘုရင်နှင့် ဘုရင်မကျောက်မျက်ရတနာ ကုမ္ပဏီလီမိတက်မှ ပုဂ္ဂလိကကျွန်းစိုက်ခင်း ဧက (၂၀၀၀)
စိုက်ပျိုးတည်ထောင် ထုတ်လုပ်ရောင်းချမည့် တည်နေရာပြမြေပုံ
ပဲခူးတိုင်း (အနောက်ပိုင်း)၊ သာယာဝတီမြို့နယ်၊ သုံးဆယ်ကြိုးဝိုင်း



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
သစ်တောရေးရာဝန်ကြီးဌာန
သစ်တောဦးစီးဌာန

နှင့်

ကျောက်စိမ်းဘုရင်နှင့် ဘုရင်မကျောက်မျက်ရတနာကုမ္ပဏီလီမိတက်တို့အကြား

# "၂၀၁၀ - ၂၀၁၁ ခုနှစ်တွင် တည်ထောင်စိုက်ပျိုးမည့် ပုဂ္ဂလိကကျွန်းစိုက်ခင်းဧက (၂၁၄၁) စိုက်ပျိုးတည်ထောင် ထုတ်လုပ်ရောင်းချခြင်းဆိုင်ရာစာချုပ်"

ဇူလိုင်လ၊ ၂၀၁၁ ခုနှစ်

# သစ်တောဦးစီးဌာန
# နှင့်
# ကျောက်စိမ်းဘုရင်နှင့် ဘုရင်မကျောက်မျက်ရတနာကုမ္ပဏီလီမိတက် တို့အကြားချုပ်ဆိုသည့် " ၂၀၁၀ - ၂၀၁၁ ခုနှစ်တွင် စိုက်ပျိုးတည်ထောင်မည့် ပုဂ္ဂလိကကျွန်းစိုက်ခင်းဧက (၂၁၄၁) စိုက်ပျိုးတည်ထောင် ထုတ်လုပ်ရောင်းချခြင်းဆိုင်ရာစာချုပ်"

ဤစာချုပ်ကို ၂၀၁၁ခုနှစ်၊ ဇူလိုင်လ၊ ...၅... ရက်နေ့၌ ဦးအေးမြင့်မောင် ညွှန်ကြားရေးမှူးချုပ် ကိုယ်စားပြုသော သစ်တောရေးရာဝန်ကြီးဌာန၊ သစ်တောဦးစီးဌာန (နောင်တွင် "အငှားချထားသူ"ဟု ခေါ်ဆိုရမည်ဖြစ်ပြီး၊ ယင်းစကားရပ်တွင် ၎င်း၏ဆက်ခံသူများနှင့် ဥပဒေအရ လွှဲအပ်ခြင်းခံရသူများ ပါဝင်သည်ဟုမှတ်ယူရမည်) က တစ်ဖက်နှင့် ကျောက်စိမ်းဘုရင်နှင့် ဘုရင်မကျောက်မျက်ရတနာကုမ္ပဏီလီမိတက်၏ အုပ်ချုပ်မှုဒါရိုက်တာ ဦးစိုင်းမျိုးဝင်း (ဘ) ဦးမောင်ကြင်၊ နိုင်ငံသားစိစစ်ရေးအမှတ်၊ ၁/ မကတ (နိုင်) ၀၀၀၃၂၆၊ [အမှတ်(၅၃/၅၄) စက်ဆရာဦးထွန်းလမ်း၊ ရွှေပြည်သာစက်မှုဇုန် (၄)၊ အင်းစိန်မြို့နယ်၊ ရန်ကုန်မြို့] (နောင်တွင် "အငှားချထားခြင်းခံရသူ" ဟု ခေါ်ဆိုရမည်ဖြစ်ပြီး၊ ယင်းစကားရပ်တွင် ၎င်း၏ တရားဝင်ကိုယ်စားလှယ်များ၊ ဆက်ခံသူများနှင့် ဥပဒေအရ လွှဲအပ်ခံရသူများ ပါဝင်သည်ဟုမှတ်ယူရမည်) က အခြားတစ်ဖက်တို့သည် အောက်ပါ သဘောတူညီမှုများနှင့် အညီ ဤစာချုပ်ကို ချုပ်ဆိုကြပါသည်။

## ၁။ ရည်ရွယ်ချက်

ဤစာချုပ်ကိုချုပ်ဆိုသည့်ရည်ရွယ်ချက်မှာ "အငှားချထားခြင်းခံရသူ"သည် "အငှားချထားသူ" ပိုင်ဆိုင်သော ရန်ကုန်တိုင်းဒေသကြီး၊ တိုက်ကြီးမြို့နယ်၊ ဥက္ကံကြိုးဝိုင်းအတွင်း အကွက်အမှတ် (၃၈၊ ၃၉၊ ၄၀၊ ၄၁)အတွင်း ကျွန်းစိုက်ခင်း ဧက(၂၁၄၁) စိုက်ပျိုးတည်ထောင်ပြီး ကျွန်းသစ်နှင့်ပတ်သက်သော တန်ဖိုးမြှင့်ပစ္စည်းများ ထုတ်လုပ်ရောင်းချ လုပ်ဆောင် သွားရန် ရည်ရွယ်ပါသည်။

## ၂။ အာမခံခြင်းနှင့် ကိုယ်စားပြုခြင်း

"အငှားချထားသူ" က အဆိုပါ ဥက္ကံကြိုးဝိုင်းနှင့် ပတ်သက်၍ တရားဝင် ဆောင်ရွက်ခွင့်ရှိကြောင်း၊ "အငှားချထားသူ" နှင့် "အငှားချထားခြင်းခံရသူ" တို့သည် သက်ဆိုင်ရာ တည်ဆဲဥပဒေများအရ၊ ဖွဲ့စည်းထား၍ အခွင့်အာဏာအပ်နှင်းခြင်း ခံရသော တရားဝင် ရပ်တည်ခွင့်ရှိသူများဖြစ်ပြီး၊ ဤသဘောတူစာချုပ်ပါ လုပ်ငန်းကို လုပ်ကိုင်ခွင့်ရှိသော ပုဂ္ဂိုလ်များဖြစ်ကြောင်းနှင့် ဤစာချုပ်ကိုချုပ်ဆိုရန် အခွင့်အာဏာ ရှိသူများ၊ ငွေကြေး အင်အား တောင့်တင်းသူများဖြစ်ကြောင်း အသီးသီးကိုယ်စားပြု အာမခံကြပါသည်။

## ၃။ လုပ်ငန်းဘောင်နှင့် လုပ်ဆောင်မှုဖြစ်စဉ်

(က) အငှားချထားသူ၏စီမံခန့်ခွဲပိုင်ခွင့်ရှိသော ဥက္ကံကြိုးဝိုင်းအတွင်းရှိ မြေဧက (၂၁၄၁) ကို "အငှားချထားခြင်းခံရသူ" မှ "အငှားချထားသူ" သို့ တစ်နှစ်လျှင် တစ်ဧကအတွက်

ငှားရမ်းခ မြန်မာကျပ်ငွေ (၅၀၀ိ/-) နှုန်းဖြင့် ဧက (၂၁၄၁) အတွက် ၁,၀၇၀,၅၀၀ိ/- (ငွေကျပ် ဆယ်သိန်းခုနှစ်သောင်းငါးရာတိတိ) ကို ပေးအပ်မည်ဖြစ်ပါသည်။

(ခ) "အငှားချထားခြင်းခံရသူ" မှ ကျွန်းစိုက်ခင်းဧက (၂၁၄၁) စိုက်ပျိုးတည်ထောင် ထုတ်လုပ်ရန်အတွက် ကနဦးရင်းနှီးမြှုပ်နှံမှုအဖြစ် အောက်ပါအတိုင်း ဆောင်ရွက်သွားမည်ဖြစ်ပါသည်-

(၁) "အငှားချထားခြင်းခံရသူ" မှ ၂၀၁၀ - ၂၀၁၁ ခုနှစ်တွင် တည်ထောင်မည့် ကျွန်းစိုက်ခင်း ဧက (၂၁၄၁) အတွက် တစ်ဧကလျှင် ၁၅၀,၀၀၀ိ/- နှုန်းဖြင့် မြန်မာကျပ်ငွေ သိန်းပေါင်း (၃၂၁၂) ခန့်ကို ကနဦး ရင်းနှီးမြှုပ်နှံ ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

(၂) "အငှားချထားခြင်းခံရသူ"သည် ၂၀၁၀-၂၀၁၁ ခုနှစ်တွင် တိုက်ကြီးမြို့နယ်၊ ဥက္ကံကြိုးဝိုင်းအတွင်း ကျွန်းစိုက်ခင်း ဧက(၂၁၄၁)ကို စိုက်ပျိုးတည်ထောင် ထုတ်လုပ်ရောင်းချမည်ဖြစ်ပါသဖြင့် အငှားချထားသည့်ကာလကို ၂၀၁၀-၂၀၁၁ ခုနှစ် ကျွန်းစိုက်ခင်း (၂၁၄၁) ဧကအတွက် (၃၅) နှစ် သတ်မှတ်မည်ဖြစ်ပါသည်။

**၄။ ကျွန်းစိုက်ခင်း (၂၁၄၁)ဧက စိုက်ပျိုးတည်ထောင်ထုတ်လုပ်ရောင်းချခြင်းအတွက် ငွေပေးသွင်းမှုနှင့် ယင်း၏စည်းကမ်းသတ်မှတ်ချက်များ**

(က) တစ်ဧကမြေငှားရမ်းခနှုန်းကို ပုံသေသတ်မှတ်ထားခြင်းမပြုလုပ်ပဲ တစ်ချိန်တွင် မြေငှား ရမ်းခနှုန်းကို နိုင်ငံတော်မှသတ်မှတ်သည့်အတိုင်း ပေးသွင်းရန်။

(ခ) "အငှားချထားခြင်းခံရသူ"သည် "အငှားချထားသူ" ထံ လုပ်ငန်းစတင်ရမည့်နေ့ရက်မတိုင်မီ ပေးသွင်းရန်နှင့် သတ်မှတ်သည့်ကာလထက် နောက်ကျပြီး ပေးသွင်းပါက နောက်ကျသည့် ရက်များအတွက် တစ်ရက်လျှင်ဒဏ်ကြေးငွေကျပ် (၁၀၀၀ိ/-) နှုန်း ပေးဆောင်ရပါမည်။

(ဂ) ငှားရမ်းသည့်စာချုပ်ကို လုပ်ငန်းစတင်မည့် ၂၀၁၀ - ၂၀၁၁ ခုနှစ် ဧက(၂၁၄၁) အတွက် စာချုပ်ကာလမှာ ၂၀၁၁ ခုနှစ်၊ ဇူလိုင်လ၊ ၈ ရက်မှ ၂၀၄၆ ခုနှစ်၊ ဇူလိုင်လ၊ ၇ ရက်အထိ (၃၅) နှစ် ဖြစ်ပါသည်။

**၅။ အငှားချထားသူ၏တာဝန်ဝတ္တရား**

"အငှားချထားသူ" သ်ည်

(က) သက်ဆိုင်ရာအာဏာပိုင်များထံမှ လိုအပ်သော ခွင့်ပြုချက်များရယူပေးရမည်။

(ခ) "အငှားချထားခြင်းခံရသူ" က လိုအပ်သော ခွင့်ပြုချက်များ၊ မှတ်ပုံတင်များ၊ လိုင်စင်များ၊ အခြားလိုအပ်သောအချက်အလက်များကို သက်ဆိုင်ရာ ပြည်ထောင်စုမြန်မာနိုင်ငံတော်၏ အဖွဲ့အစည်းများထံမှရယူရာတွင် ကူညီဆောင်ရွက်ပေးရမည်။

(ဂ) "အငှားချထားခြင်းခံရသူ" က ငှားရမ်းသည့်ကာလအတွင်း လုပ်ပိုင်ခွင့်ရရှိထားသော မြေဧက (၂၁၄၁) ကို စည်းကမ်းချက်များနှင့်အညီ လက်ဝယ်ထား၍ ဆောင်ရွက်ခွင့် ရှိစေရန်အတွက် "အငှားချထားသူ" ကသော်လည်းကောင်း၊ ယင်း၏ ကိုယ်စားပြုသူက သော်လည်းကောင်း၊ ဝင်ရောက်စွက်ဖက်ခြင်း၊ နှောက်ယှက်ခြင်းများမပြုရန် တာဝန်ယူ ရမည်။

(ဃ) "အငှားချထားခြင်းခံရသူ" က မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ထံသို့ စီမံကိန်းဆိုင်ရာလုပ်ငန်းများအတွက် အခွန်အခကင်းလွတ်ခွင့်၊ သက်သာခွင့်နှင့် အခြားအထူး ခံစားခွင့်များ လျှောက်ထားရာတွင် ကူညီဆောင်ရွက်ပေးရမည်။

(င) "အငှားချထားခြင်းခံရသူ" က စီမံကိန်းလုပ်ငန်းများ ဆောင်ရွက်ရာတွင် လိုအပ်သော ကုန်ကြမ်းများ၊ စက်ယန္တရားများ၊ မျိုးစေ့များ၊ လုပ်ငန်းသုံး ပစ္စည်းများကို ပြည်တွင်း ပြည်ပမှ တင်သွင်းရာတွင် အကောက်ခွန်ရှင်းလင်းမှုနှင့် သယ်ယူပို့ဆောင်ရေး၌ လိုအပ်သလို ကူညီဆောင်ရွက်ပေးရမည်။

**၆။ အငှားချထားခြင်းခံရသူ၏ လိုက်နာရမည့်စည်းကမ်းချက်များနှင့် အခွင့်အရေးများ**

(က) လုပ်ကိုင်ခွင့်ပြုထားသည့် မြေပေါ်တွင် သတ်မှတ်ထားသည့် နှစ်ကာလအတွင်း ဧရိယာအားလုံး သို့မဟုတ် အငှားချထားသူက ကင်းလွတ်ခွင့်ပြုသည့် ဧရိယာမှအပ ကျန်မြေဧရိယာအားလုံး အပြည့်အဝ စိုက်ပျိုးပြီး ဖြစ်ရမည်။

(ခ) လုပ်ကိုင်ခွင့်ပြုထားသည့် မြေပေါ်တွင် ကျွန်းစိုက်ခင်းကို အနှောက်အယှက်မပြုသည့် တောင်ယာသီးနှံ/ သီးနှံသစ်တော ရောနှောစိုက်ပျိုးခြင်း (Agro forestry) လုပ်ငန်းမှအပ အခြား လုပ်ငန်းကို ခွင့်ပြုချက်မရှိပဲ လုပ်ကိုင်ခြင်းမပြုရ။

(ဂ) လုပ်ငန်းလုပ်ကိုင်ခွင့်အတွက် နှစ်စဉ်စိုက်ပျိုးမည့် စီမံချက်ပါ ဧကအလိုက် အာမခံကြေးငွေ တစ်ဧကလျှင် ၁၀၀၀ိ/- (ကျပ်တစ်ထောင်တိတိ) ကို လုပ်ငန်းစတင်ဆောင်ရွက်မည့် နေ့ရက် မတိုင်မီ အငှားချထားသူမှ သတ်မှတ်ထားသည့် ဘဏ်တွင် ပေးသွင်းရမည်။ ထိုအာမခံကြေးငွေကို ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ကျွန်းစိုက်ခင်း စီမံချက်ပါအတိုင်း အပြည့်အဝစိုက်ပျိုးပြီး တစ်နှစ်ပြည့်၍ သတ်မှတ်ချက်များအတိုင်း စိုက်ခင်းအောင်မြင်ပါက ပြန်လည်ထုတ်ယူခွင့်ရှိသည်။

(ဃ) လုပ်ကိုင်ခွင့်ပြုထားသည့် မြေပေါ်တွင်လုပ်ကိုင်မည့် လုပ်ငန်းအစီအစဉ်များကို ကြိုတင်ရေးဆွဲပြီး အငှားချထားသူက အတည်ပြုထားသည့် စီမံချက်ပါအတိုင်း သတ်မှတ်ထားသော အချိန်ကာလများနှင့် အညီ ပြီးစီးအောင် ဆောင်ရွက်ရမည်။ လုပ်ငန်းအစီအစဉ်အတိုင်း ခိုင်လုံသော အကြောင်းမရှိဘဲ ဆောင်ရွက်နိုင်ခြင်းမရှိဟု ယူဆရန် အထောက်အထားများ ခိုင်လုံပါက အစိုးရ အဖွဲ့၏ ခွင့်ပြုချက်ဖြင့် လုပ်ကိုင်ခွင့်ကို ပြန်လည်ရုပ်သိမ်းခြင်းခံရမည့်အပြင် သစ်တောပျက်စီး ဆုံးရှုံးမှုအတွက် ထိုက်သင့်သော လျော်ကြေးငွေကို ပေးဆောင်ရမည်။ ထို့အပြင် ပေးသွင်းထားသည့် အာမခံကြေးငွေကိုလည်း သိမ်းဆည်းခြင်းခံရမည်။

(င) လုပ်ကိုင်ခွင့်ပြုထားသည့် မြေဧရိယာအတွင်း ပေါက်ရောက်နေသည့် ကျွန်းနှင့် တားမြစ်သစ်ပင်များကို သစ်တောဦးစီးဌာန၏ ခွင့်ပြုချက်မရရှိဘဲ ခုတ်လှဲခြင်း၊ ပိုင်းဖြတ်ခြင်း၊ သင်းသတ် ခြင်း၊ ထစ်မှတ်ခြင်း၊ ချိုးဖျက်ခြင်း၊ ဖောက်ထွင်းခြင်း၊ မီးသို့မဟုတ် အခြားနည်းဖြင့် ပျက်စီးစေခြင်း၊ ထုတ်ယူခြင်း၊ သယ်ယူရွှေ့ပြောင်းခြင်းနှင့် လက်ဝယ်ထားခြင်းမပြုရ။

(စ) လုပ်ကိုင်ခွင့်ပြုထားသည့် မြေဧရိယာအတွင်း မြေပေါ်မြေအောက် သယံဇာတပစ္စည်းများကို တည်ဆဲဥပဒေတစ်ရပ်ရပ်အရ သီးခြားခွင့်ပြုချက်မရှိဘဲ ရှာဖွေခြင်း၊ တူးဖော်ခြင်း၊ ထုတ်ယူခြင်းမပြုရ။

(ဆ) လုပ်ကိုင်ခွင့်ရရှိသည့် သက်တမ်းအတွင်း လုပ်ကိုင်ခွင့်ရရှိသူ ကွယ်လွန်လျှင် ၎င်း၏ အမွေ ဆက်ခံခွင့်ရရှိသူက ခိုင်လုံသောအထောက်အထားများ တင်ပြ၍ သစ်တောရေးရာဝန်ကြီးဌာန၏ ခွင့်ပြုချက်ဖြင့် ဆက်လက်လုပ်ကိုင်ခွင့်ရှိသည်။

(ဇ) လုပ်ကိုင်ခွင့်ပြုထားသည့် မြေအားလုံးကိုသော်လည်းကောင်း၊ တစ်စိတ်တစ်ဒေသကိုသော် လည်းကောင်း၊ သစ်တောရေးရာဝန်ကြီးဌာန၏ ခွင့်ပြုချက်မရရှိဘဲ ပေါင်နှံခြင်း၊ ရောင်းချခြင်း သို့မဟုတ် အခြားတစ်နည်းနည်းဖြင့် လွှဲပြောင်းခြင်းမပြုရ။

(ဈ) ကျွန်းစိုက်ခင်း တည်ထောင်ရာတွင် မျိုးကောင်းမျိုးသန့်အပင်များမှ ခန္ဓာပိုင်းမျိုးပွားနည်း (Vegetative Propagation) ဖြင့် ထုတ်လုပ်ထားသည့် ပျိုးပင်များကို အတတ်နိုင်ဆုံး အသုံးပြု ရမည့်အပြင် ရေရှည်တွင် ကျွန်းမျိုးသန့်ဥယျာဉ် (Seed Orchard) တည်ထောင်ရမည်။ ထို့အပြင် မျိုးကောင်းမျိုးသန့် ထုတ်လုပ်ရေးအတွက် သုတေသနနှင့် ဖွံ့ဖြိုးရေးလုပ်ငန်းများ (Research and Development) ကို ဆောင်ရွက်ရမည်။

(ည) ကျွန်းစိုက်ခင်းတည်ထောင်ရာတွင် သဘာဝဝန်းကျင် ယိုယွင်းပျက်စီးခြင်း မရှိစေရေးအတွက် သစ်တောဦးစီးဌာန၏ သစ်တောစိုက်ခင်းတည်ထောင်ခြင်းနှင့် ပြုစုထိန်းသိမ်းခြင်းဆိုင်ရာ နည်းစနစ်များနှင့် စည်းကမ်းချက်များကို လိုက်နာဆောင်ရွက်ရမည်။

(ဋ) အငှားချထားသူ၏ ခွင့်ပြုသတ်မှတ်ချက်နှင့်အညီ သစ်တောစိုက်ခင်းလုပ်သားများ စုစည်း နေထိုင်နိုင်ရေးနှင့် ၎င်းတို့၏ လူနေမှုဘဝ အဆင်ပြေစေရေးအတွက် သစ်တောရွာ တည်ထောင်ပေး ရမည်။

(ဌ) ကျွန်းစိုက်ခင်း မှတ်တမ်းစာအုပ်ထားရှိ၍ လုပ်ငန်းဆောင်ရွက်ချက်များကို အသေးစိတ်မှန်ကန်စွာ ဖြည့်စွက်ထားရှိရမည်။ အငှားချထားသူမှ တာဝန်ရှိသူများ အခါအားလျော်စွာ လာရောက် ကြည့်ရှုစစ်ဆေး၍ အကြံပြုချက်များ၊ မှတ်ချက်များ ရေးသားပါက ယင်းအကြံပြုချက်များ၊ မှတ်ချက် များနှင့်အညီ ဆက်လက်ဆောင်ရွက်ရမည်။

(ဍ) မြေငှားရမ်းခအဖြစ် တစ်ဧကအတွက် တစ်နှစ်လျှင် ကျပ် ၅၀၀/- (ကျပ် ငါးရာ တိတိ) နှုန်း ဖြင့် လုပ်ငန်းစတင်ရမည့် နေ့ရက်မတိုင်မီနှင့် နောက်နှစ်များတွင် ဆက်လက်လုပ်ကိုင်မည့် နှစ်အတွက် ပထမဆုံး နေ့ရက်မတိုင်မီ သစ်တောဦးစီးဌာနသို့ နှစ်စဉ် ပေးသွင်းရမည်။

(ဎ) ကျွန်းစိုက်ခင်းတွင် ပင်ကျပ်နုတ်ခြင်းနှင့် နောက်ဆုံးတောထွက် (Final Yield) ထုတ်လုပ်ခြင်း လုပ်ငန်းများကို သစ်တောဦးစီးဌာန၏ ခွင့်ပြုချက်ရယူပြီး ကျွန်းစိုက်ခင်း တည်ထောင်ခြင်းနှင့် ပြုစုထိန်းသိမ်းခြင်းဆိုင်ရာ နည်းစနစ်များနှင့်အညီ ဆောင်ရွက်ရမည်။

(ဏ) ကျွန်းစိုက်ခင်းမှ ပင်ကျပ်နုတ်ခြင်းနှင့် နောက်ဆုံးတောထွက် ထုတ်လုပ်ခြင်းလုပ်ငန်းများ ဆောင်ရွက်သည့်အခါ သစ်တောဦးစီးဌာနမှ သတ်မှတ်ထားသည့် တံဆိပ်အမှတ်အသားများ ရိုက်မှတ်ပြီးမှ ခုတ်လှဲခြင်းနှင့် ထုတ်ယူခြင်း ပြုရမည်။

(တ) ကျွန်းစိုက်ခင်းမှ ထုတ်လုပ်ထွက်ရှိသည့် ကျွန်းမျော၊ ကျွန်းတိုင်၊ ကျွန်းသစ်များကို စိုက်ခင်း ဧရိယာအတွင်း၌ သစ်တောဦးစီးဌာနက အကောက်တံဆိပ် ရိုက်မှတ်ပြီးသည့်အခါ သတ်မှတ် စည်းကြပ်သည့် အခွန်ငွေကို ပေးဆောင်ရမည်။

(ထ) သတ်မှတ်စည်းကြပ်သည့် အခွန်ငွေ ပေးဆောင်ပြီးဖြစ်သော ကျွန်းမျော၊ ကျွန်းတိုင်၊ ကျွန်း သစ်များကို နိုင်ငံတော်က ချမှတ်ထားသည့် မူဝါဒများနှင့် သစ်တောဦးစီးဌာန၏ စည်းမျဉ်း စည်းကမ်း များနှင့် အညီ ပြည်တွင်း၊ ပြည်ပသို့ ရောင်းချနိုင်သည်။

(ဒ) ကျွန်းစိုက်ခင်းတွင် ပင်ကျပ်နုတ်ခြင်းမှ ကြားတောထွက် (Intermediate Yield) အဖြစ် ထုတ်လုပ်ထွက်ရှိသည့် ကျွန်းမျော၊ ကျွန်းတိုင်၊ ကျွန်းသစ်များကို လုပ်ငန်းရှင်မှ ရယူခံစား ခွင့်ရှိပြီး နောက်ဆုံးတောထွက်အဖြစ် ထုတ်လုပ်ထွက်ရှိသည့် ကျွန်းသစ်များကို ပြည်တွင်းပြည်ပ သို့ ရောင်းချသည့်အခါ စုစုပေါင်းရရှိသည့် ထုတ်လုပ်မှုပမာဏ သို့မဟုတ် တန်ဖိုး၏ ၂၅ % ကို သစ်တောရေးရာ ဝန်ကြီးဌာန၏ သတ်မှတ်ချက်နှင့်အညီ ပေးအပ်ရမည်။

(ဓ) လုပ်ကိုင်ခွင့်ပြုသော မြေအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို နိုင်ငံတော်နှင့် အများ ပြည်သူအကျိုးအတွက် တည်ဆဲဥပဒေနှင့်အညီ ပြန်လည် သိမ်းယူသည့်အခါ ကျွန်းစိုက်ခင်း လုပ်ငန်း တည်ထောင်သည့် ရင်းနှီးမြှုပ်နှံငွေများနှင့် သင့်လျော်သည့် လျော်ကြေးငွေကို ရထိုက်ခွင့်ရှိသည်။ ထိုသို့ သိမ်းယူသည့်အခါ သစ်တောရေးရာဝန်ကြီးဌာနက ညွှန်ကြားသည့်အတိုင်း ပြန်လည် အပ်နှံ ရမည်။

(န) လုပ်ကိုင်ခွင့်ရရှိသည့် မြေပေါ်တွင် ကျွန်းစိုက်ခင်းစိုက်ပျိုးပြီး (၈) နှစ် ပြည့်ပြီးသည့်အခါ သစ်တောရေးရာဝန်ကြီးဌာန၏ ခွင့်ပြုချက်ဖြင့် ရောင်းချခွင့် ရှိသည်။

(ပ) အထက်ဖော်ပြပါ စည်းကမ်းချက်အပိုဒ်တစ်ခုခုကို ပြင်ဆင်လိုပါက သစ်တောရေးရာ ဝန်ကြီး ဌာန၏ ခွင့်ပြုချက်ဖြင့် ပြင်ဆင်ခွင့်ရှိသည်။

**၇။ စာချုပ်စတင်အကျိုးသက်ရောက်သောနေ့**

ဤစာချုပ်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်နှင့် အထက်အဖွဲ့အစည်းတို့၏ အတည် ပြုချက်ရရှိပြီးနောက် အသိသက်သေများရှေ့တွင် နှစ်ဦးနှစ်ဖက် လက်မှတ်ရေး ထိုးသော နေ့ရက်မှ စတင် အကျိုးသက်ရောက်မှု ရှိစေရမည်။

**၈။ စာချုပ်သက်တမ်းကာလ**

ငှားရမ်းလုပ်ကိုင်ခွင့်ပြုသည့် ကာလ (၃၅) နှစ်ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင် နှင့် အထက်အဖွဲ့အစည်းတို့၏ အတည်ပြုချက်ရရှိပြီးနောက် နှစ်ဦးနှစ်ဖက် လက်မှတ်ရေးထိုး သော နေ့ရက်မှ စတင်ရေတွက်သွား မည်ဖြစ်သည်။

**၉။ စာချုပ်သက်တမ်းကုန်ဆုံးခြင်း**

ဤစာချုပ်သက်တမ်းသည် ငှားရမ်းကာလပြည့်မြောက်သည့်နေ့ (သို့) စာချုပ်ပါ လုပ်ငန်းများ ကို "အငှားချထားခြင်းခံရသူ"နှင့် "အငှားချထားသူ" တို့ အပြည့်အဝ ပြီးဆုံးအောင် ဆောင်ရွက်ပြီး သည့်နေ့တွင် ကုန်ဆုံးသည်ဟုမှတ်ယူရမည်။ သို့သော် "အငှားချထားခြင်း ခံရသူ"၏ ပျက်ကွက်မှု ကြောင့် "အငှားချထားသူ" က စာချုပ်ပါ စည်းကမ်းချက်နှင့်အညီ ဆောင်ရွက်ရန် တရားဝင်စာဖြင့် အကြောင်းကြားသော်လည်း (၁) လအတွင်း စီမံကိန်း လုပ်ငန်းများကို ဆောင်ရွက်ခြင်းမရှိ၍ ငှားရမ်းခြင်းကို ရပ်ဆိုင်းသောနေ့သည် စာချုပ် သက်တမ်းကုန်ဆုံးသည့်နေ့ဟု မှတ်ယူရမည်။

**၁၀။ စာချုပ်ရပ်စဲခြင်း**

ဤစာချုပ်သည် အောက်ဖော်ပြပါ အခြေအနေ တစ်ရပ်ရပ်ဖြစ်ပေါ်လာပါက မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်နှင့် အထက်အဖွဲ့အစည်းတို့၏ အတည်ပြုချက်ရရှိသည့် အခါ ရပ်စဲသွားမည် -

(က) စာချုပ်ဝင်နှစ်ဦးနှစ်ဖက်တို့သည် မိမိတို့အသီးသီး၏ လွတ်လပ်သော သဘော ဆန္ဒ အလျောက် စာချုပ်ရပ်စဲရန် သဘောတူပြီး ကော်မရှင်သို့ စာဖြင့်တင်ပြ လျက် ကော်မရှင်ကလည်း သဘောတူခွင့်ပြုသည့်အခါ

(ခ) စာချုပ်ဝင်တစ်ဖက်ဖက်က ဤစာချုပ်ပါ ဆောင်ရွက်ရန်၊ လိုက်နာရန် တာဝန် များ ဆောင်ရွက်ရန် ပျက်ကွက်သည့် အခါ

(ဂ) မလွန်ဆန်နိုင်သော ဖြစ်ရပ်များသည် တစ်ဆက်တည်း (၆)လထက်ကျော်လွန် ဖြစ်ပေါ်နေသည့်အခါ

(ဃ) သတ်မှတ်ထားသည့် စီမံကိန်းကာလအတွင်း လုပ်ငန်း၏ မူလရည်မှန်းချက်များ ကို အကောင်အထည်ဖော်နိုင်စွမ်းမရှိသည့်အခါ

(င) စာချုပ်သက်တမ်းကုန်ဆုံးသည့်အခါ

**၁၁။ ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်း**

"အငှားချထားခြင်းခံရသူ" သည် အငှားချထားသည့် မြေဧက (၂၁၄၁)၏ ပတ်ဝန်း ကျင်ရှိ လေထု၊ မြေထု ညစ်ညမ်းမှုမရှိစေရန်နှင့် မီးဘေးလုံခြုံမှုရှိစေရန် ပြည်ထောင်စု မြန်မာနိုင်ငံတော်၏ တည်ဆဲဥပဒေ၊ စည်းမျဉ်းစည်းကမ်း လုပ်ထုံးလုပ်နည်းများနှင့်အညီ စနစ် တကျ စီမံအကောင်အထည်ဖော်ဆောင်ရွက်ရမည်။

**၁၂။ ဓါတ်သတ္တုအရင်းအမြစ်များ**

ဤစာချုပ်ပါ ငှားရမ်းကာလအတွင်း ငှားရမ်းထားသည့် မြေဧက (၂၁၄၁) တည် ရှိရာမြေပေါ် မှ ဓါတ်သတ္တုအရင်းအမြစ်များ၊ ရတနာများ၊ ရှေးဟောင်းအနုပညာ ပစ္စည်းများ၊ သဘာဝသမိုင်းနှင့် သိပ္ပံဆိုင်ရာ အရေးပါသော အရာဝတ္ထုများ၊ သဘာဝသယံဇာတ ပစ္စည်း များကို တွေ့ရှိလျှင် "အငှားချထားခြင်းခံရသူ" သည် သက်ဆိုင်ရာမြန်မာနိုင်ငံအစိုးရ အဖွဲ့

အစည်းများသို့ ချက်ခြင်းအကြောင်း ကြားရမည်။ ထို့ပြင် အထက်ပါပစ္စည်းများအား နိုင်ငံတော် အစိုးရက လွတ်လပ်စွာတူးဖော် ရယူပိုင်ခွင့် ရှိစေရမည်။

**၁၃။ အာမခံကြေးငွေ**

(က) "အငှားချထားခြင်းခံရသူ" သည် အငှားချထားခြင်းခံရသူ၏ လိုက်နာရမည့် စည်းကမ်း ချက်များနှင့် အခွင့်အရေးများ အပိုဒ် (၃) အရ အာမခံကြေးငွေများ ကို လုပ်ငန်းစတင်ဆောင်ရွက်မည့် နေ့ရက်မတိုင်မီ အငှားချထားသူမှ သတ်မှတ် ထားသည့် ဘဏ်တွင်ပေးသွင်းရမည်။ "အငှားချထားခြင်းခံရသူ" သည် ထို အာမခံကြေးငွေကို ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ကျွန်းစိုက်ခင်း စီမံချက် ပါအတိုင်း အပြည့်အဝ စိုက်ပျိုးပြီး တစ်နှစ်ပြည့်၍ သတ်မှတ်ချက်များ အတိုင်း စိုက်ခင်းအောင်မြင်ပါက ပြန်လည် ထုတ်ယူခွင့်ရှိသည်။

(ခ) "အငှားချထားခြင်းခံရသူ" သည် စာချုပ်ပါ စည်းကမ်းတစ်ရပ်ရပ်ကို ချိုး ဖောက်ပါက အငှားချထားသူက အထက်အပိုဒ် (က) ပါ အာမခံကြေးငွေကို သိမ်းယူခွင့်ရှိသည်။

**၁၄။ မလွန်ဆန်နိုင်သော ဖြစ်ရပ်များ**

(က) စာချုပ်ဝင်တစ်ဖက်ဖက်သည် မိမိ၏တာဝန်ဝတ္တရားများကို ဆောင်ရွက်ရာတွင် မလွန် ဆန်နိုင်သော ဖြစ်ရပ်များကြောင့် ပျက်ကွက်ခြင်း၊ နှောင့်နှေးခြင်းများ ရှိပါသဖြင့် အခြားစာချုပ်ဝင် တစ်ဖက်ဖက်တွင် နစ်နာမှုများပေါ်ပေါက်လျှင် ထိုသူသည် ထိုနစ်နာမှုများအတွက် တာဝန်မရှိစေရ။ မလွန်ဆန်နိုင်သော ဖြစ်ရပ်များဆိုသည်မှာ အစိုးရအဖွဲ့ တစ်ဖွဲ့ဖွဲ့၏ တားဆီးမိန့်၊ သပိတ်မှောက်ခြင်း၊ စစ်ဖြစ်မှု၊ ငလျင်လှုပ်ခြင်း၊ ပိတ်ဆို့တားဆီးမှု၊ သူပုန်ထခြင်း၊ အဓိကရုဏ်းဖြစ်မှု၊ ကူးစက်ရောဂါပြန့်ပွားမှု၊ ပေါက်ကွဲမှု၊ မီးလောင်မှု၊ ရေကြီးမှု၊ မုန်တိုင်းကျမှု စသော စာချုပ်ဝင်တစ်ဖက်ဖက်က လိုအပ်သော သတိဝီရိယနှင့် ဆောင်ရွက် စေကာမူ မလွန်ဆန်/ မကျော်လွှားနိုင်သည့် အလားတူဖြစ်ရပ်များဖြစ်သည်။

(ခ) စာချုပ်ဝင်များသည် ထိုကဲ့သို့ မလွန်ဆန်နိုင်သော ဖြစ်ရပ်များနှင့် ကြုံတွေ့ ရလျှင် ကြုံတွေ့ရသူက အခြားစာချုပ်ဝင်အား ထိုအဖြစ်အပျက်ဖြစ်ပွားပြီး (၁၅) ရက် အတွင်း ဖြစ်ပွားမှုအခြေအနေအသေးစိတ်ကို အကြောင်းကြားရန်နှင့် ထိုကာလ အတွင်းဖြစ်ပေါ်မှု အခြေအနေ၊ မိမိက ဆုံးဖြတ်ဆောင်ရွက်ရမည့် အခြေအနေများနှင့် အရေးပေါ်ဆောင်ရွက်ခဲ့မှု အခြေအနေများကို အကြောင်း ကြားရမည်။ တစ်ဖက်က သဘောတူလက်ခံမှသာ မလွန်ဆန်နိုင်သောဖြစ်ရပ် မြောက်စေရမည်။ အဆိုပါ ဖြစ်ရပ်ကို ကြုံတွေ့ခံစားရသူ၏ တာဝန်များကို ထိုမလွန်ဆန်နိုင်သော ကာလအတွင်း ဆိုင်းငံ့စေရမည်။ သို့ရာတွင် ထိုဆိုင်းငံ့ ကာလသည် အကျိုးအကြောင်း ဆက်နွယ်မှု အရ လိုအပ်သည်ထက်ပိုမို၍ မကြန့်ကြာစေရဘဲ ထိုအဖြစ်အပျက်ကိုလည်း မလွန် ဆန်နိုင်သော ဖြစ်ရပ်ခံရ သူက အမြန်ဆုံးဖြစ်နိုင်သမျှ ဖယ်ရှားပစ်ရမည်။

